# ပြည်ထောင်စု သမ္မတ

# မြန်မာနိုင်ငံတော်အတွင်း

# နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုအတွက်

# အဆိုပြုချက်

# 'မြန်မာတက်ပ်ဝါးတား ကုမ္ပဏီ လီမိတက်'

❖ ❖ ❖ ❖ ❖ ❖ ❖

# PROPOSAL FOR FOREIGN INVESTMENT IN THE REPUBLIC OF THE UNION OF MYANMAR

# "MYANMAR TAP WATER CO., LTD."

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
မွန်ပြည်နယ်

စာအမှတ် ၊ ၂၀၀/ ၂ - ၂ / အဖရ(မွန်)(၁၀၈၁ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ၊ အောက်တိုဘာလ ၂၇ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ **သဘောထားပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ (၁) ပြည်ထောင်စုအစိုးရအဖွဲ့၏ (၁၀-၈-၂၀၁၇) ရက်စွဲပါစာအမှတ်၊ ၄၀ / ၁၆၈/ အဖရ (၁၄/၂၀၁၇)

(၂) မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့၏ (၂-၁၀-၂၀၁၇) ရက်စွဲပါစာအမှတ်၊ ၃၀၀၂/ ဂ-၈/ မပစ(၅၂၀)

၁။ မွန်ပြည်နယ်၊ မော်လမြိုင်မြို့၊ မြို့ပေါ်(၂၉)ရပ်ကွက်အနက် (၂၂)ရပ်ကွက်သို့ အတ္ထရံမြစ်မှ မြစ်ရေကို သန့်စင်ပြီး ရေပေးဝေခြင်းလုပ်ငန်းအား ထိုင်းနိုင်ငံ Thai Water Operation Co.,Ltd မှ (၇၀%)နှင့် မြန်မာနိုင်ငံ Z Coporation Co.,Ltd မှ (၃၀%) ဖြင့် အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myanmar Tap Water Co.,Ltd တည်ထောင်ပြီး မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့နှင့် B.O.T စနစ်ဖြင့် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၂။ စီမံကိန်းနှင့်ပတ်သက်၍ (၅-၇-၂၀၁၇)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မွန်ပြည်နယ်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၇/၂၀၁၇) ဆုံးဖြတ်ချက်အပိုဒ်(၂၈)အရ Myanmar Tap Water Co.,Ltd က မော်လမြိုင်မြို့တွင် အတ္ထရံမြစ်မှမြစ်ရေကို သန့်စင်ပြီး ရေဖြန့်ဝေခြင်းအား မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့နှင့် B.O.T စနစ်ဖြင့် ဆောင်ရွက်ရန်သဘောတူကြောင်းနှင့် ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြရန် ဆုံးဖြတ်ခဲ့၍ အဆိုပါလုပ်ငန်းအား B.O.T စနစ်ဖြင့် ဆက်လက်ဆောင်ရွက်ခွင့်ပြုပါရန် ပြည်ထောင်စုအစိုးရအဖွဲ့သို့ (၁၇-၇-၂၀၁၇)ရက်စွဲပါစာဖြင့် အမှာစာနှင့်အတူ ပေးပို့တင်ပြခဲ့ရာ ပြည်ထောင်စုအစိုးရအဖွဲ့မှလည်း ရည်ညွှန်း(၁)ပါစာဖြင့် ဆောင်ရွက်ခွင့်ပြုကြောင်း အကြောင်းကြားခဲ့ပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ Myanmar Tap Water Co.,Ltd ၏ မော်လမြိုင်မြို့တွင် ရေသန့်စင်ခြင်းလုပ်ငန်းဆောင်ရွက်မှုသည် မော်လမြိုင်မြို့နေ ပြည်သူလူထုများ၏ လိုလားချက်အရ အများပြည်သူဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းဖြစ်ပြီး အမှန်တကယ်ဆောင်ရွက်ရန် လိုအပ်သောလုပ်ငန်းဖြစ်ပါသဖြင့် အဆိုပါလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်

မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့မှ ရည်ညွှန်း(၂)ပါစာဖြင့် တင်ပြခဲ့ပြီး ဤရုံးသို့ မိတ္တူပေးပို့တင်ပြလာသည့်ကိစ္စနှင့်ပတ်သက်၍ မွန်ပြည်နယ်အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(လှဝင်းတင်၊ အတွင်းရေးမှူး)

မိတ္တူကို

စည်ပင်သာယာရေးနှင့်ဆောက်လုပ်ရေးဝန်ကြီး
လှည့်လည်စာတွဲ
ရုံးလက်ခံ

ထိပ်တန်းလျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်ထောင်စုအစိုးရအဖွဲ့

ချိန်စက် / ကြေးနန်း
စာအမှတ် ၃၈၆၄
ရက်စွဲ ၁၄ . ၈ . ၁၇
အချိန် ၁၁:၀၀

စာအမှတ်၊ ၄၀ / ၁၆၈ / အဖရ (၁၄/ ၂၀၁၇)။
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဩဂုတ်လ ၁၀ ရက်။

အ မှာ စာ

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အတွဲရုံမြစ်မှမြစ်ရေကိုသန့်စင်၍ ဖြန့်ဝေခြင်းလုပ်ငန်းအား B.O.T စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြခြင်းကိစ္စ။

၁။ ၂၀၁၇ ခုနှစ်၊ ဇူလိုင်လ ၂၁ ရက် (သောကြာ)နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၄/၂၀၁၇)မှတ်တမ်းကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်းပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

ဇော်သန်းသင်း
အတွင်းရေးမှူး

**ဝန်ကြီးချုပ်**
**မွန်ပြည်နယ်အစိုးရအဖွဲ့**

၄၀။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အတွဲရုံမြစ်မှမြစ်ရေကိုသန့်စင်၍ ဖြန့်ဝေခြင်းလုပ်ငန်းအား B.O.T စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြခြင်းကိစ္စ။

မွန်ပြည်နယ်အစိုးရအဖွဲ့၏ ၂၀၁၇ ခုနှစ်၊ ဇူလိုင်လ ၁၇ ရက် နေ့စွဲပါ အမှာစာ အမှတ်၊ ၂၀၀ / ၂-၁ / အဖရ (မွန်) (၀၆၄၈)။

ထိုင်းနိုင်ငံ Thai Water Operation Co., Ltd. မှ (၇၀ %)နှင့် မြန်မာနိုင်ငံ Z Corporation Co., Ltd. မှ (၃၀ %)ဖြင့် အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myanmar Tap Water Co., Ltd. တည်ထောင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မော်လမြိုင်မြို့တွင် အတွဲရုံမြစ်မှမြစ်ရေကိုသန့်စင်ပြီး ရေဖြန့်ဝေခြင်းလုပ်ငန်းအား မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့နှင့် B.O.T စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုရန် သဘောတူကြသည်။ ဆောင်ရွက်ရန်၊ မွန်ပြည်နယ်အစိုးရအဖွဲ့။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
မွန်ပြည်နယ်

စာအမှတ် ၊ ၂၀၀/ ၂ - ၁ / အဖရ(မွန်)(၀၆၄၇)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ၊ ဇူလိုင် လ ၁၅ ရက်

သို့

အတွင်းရေးမှူး
ပြည်ထောင်စုအစိုးရအဖွဲ့
နေပြည်တော်

**အကြောင်းအရာ ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အတ္ထရံမြစ်မှ မြစ်ရေကို သန့်စင်၍ ဖြန့်ဝေခြင်းလုပ်ငန်းအား BOT စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်း**

ထိုင်းနိုင်ငံ Thai Water Operation Co.,Ltd မှ (၇၀%) နှင့် မြန်မာနိုင်ငံ Z Corporation Co.,Ltd မှ (၃၀%)ဖြင့် အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myanmar Tap Water Co.,Ltd တည်ထောင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မော်လမြိုင်မြို့တွင် အတ္ထရံမြစ်မှ မြစ်ရေကို သန့်စင်ပြီး ရေဖြန့်ဝေခြင်းလုပ်ငန်းကို မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့နှင့် B.O.T စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ မွန်ပြည်နယ်အစိုးရအဖွဲ့ကိုယ်စား ရှင်းလင်းတင်ပြပေးနိုင်ပါရန် ပန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(လှဝင်းတင် ၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
မွန်ပြည်နယ်

စာအမှတ်၊ ၂၀၀ / ၂ -၁ / အဖရ(မွန်) (၆၆၄၈)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ၊ ဇူလိုင်လ ၁၇ ရက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့်အတ္ထရံမြစ်မှမြစ်ရေကိုသန့်စင်၍ ဖြန့်ဝေခြင်း လုပ်ငန်းအား B.O.T စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ**

၁။ ထိုင်းနိုင်ငံ Thai Water Operation Co.,Ltd မှ (၇၀%) နှင့် မြန်မာနိုင်ငံ Z Corporation Co.,Ltd မှ (၃၀%)ဖြင့် အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myanmar Tap Water Co.,Ltd တည်ထောင်၍ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မော်လမြိုင်မြို့တွင် အတ္ထရံမြစ်မှမြစ်ရေကို သန့်စင်ပြီး ရေဖြန့်ဝေခြင်းလုပ်ငန်းအား မော်လမြိုင်မြို့နယ် စည်ပင်သာယာရေးအဖွဲ့နှင့် BOT စနစ်ဖြင့် ဆောင်ရွက်သွားရန် ခွင့်ပြုမိန့်ချမှတ်ပေးနိုင်ရေး စီးပွားရေးရာကော်မတီအစည်းအဝေးတွင် ထည့်သွင်း ဆွေးနွေးပြီး ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြဆွေးနွေးပေးနိုင်ရေးအတွက် လိုအပ်သလို ဆောင်ရွက်ပေးနိုင်ပါရန် (၄-၈-၂၀၁၆) ရက်စွဲပါစာဖြင့် စီးပွားရေးရာ ကော်မတီသို့တင်ပြပြီးဖြစ်ပါသည်။

၂။ မော်လမြိုင်မြို့ပေါ် (၂၉)ရပ်ကွက် အနက် (၂၂)ရပ်ကွက်ကို ရေပေးဝေရာတွင် ရေသန့်စနစ် တည်ဆောက်နိုင်ခြင်းမရှိဘဲ လက်ရှိရေလိုအပ်ချက်၏ (၅၅%)သာ ပေးဝေနိုင်ခြင်း၊ လူအများစုမှာ အဝီစိတွင်း၊ လက်တူးတွင်း၊ မြေသားရေလှောင်ကန်၊ အများသုံးရေကန်များမှ ရယူသုံးစွဲလျက် ရှိခြင်းတို့ကြောင့် သန့်ရှင်းသောရေ လုံလောက်စွာပေးဝေနိုင်ရေးအတွက် အဆိုပါ ရေဖြန့်ဝေခြင်း လုပ်ငန်းသည် အရေးတကြီးလုပ်ဆောင်ရန် လိုအပ်လျှက်ရှိပါသည်။

၃။ သို့ဖြစ်ပါ၍ Myanmar Tap Water Co.,Ltd ၏ မော်လမြိုင်မြို့တွင် ရေသန့်စင်ခြင်း လုပ်ငန်းဆောင်ရွက်မှုသည် မော်လမြိုင်မြို့နေ ပြည်သူများ၏ လိုလားချက်နှင့်ကိုက်ညီသည့် အများ ပြည်သူဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းဖြစ်ပြီး အမြန်တကယ်ဆောင်ရွက်ရန် လိုအပ်သောလုပ်ငန်းဖြစ်ပါကြောင်း၊ စီမံကိန်းနှင့်ပတ်သက်၍ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ (12 mil.USD) ကုန်ကျမည်ဖြစ်ကြောင်း၊ စီမံကိန်း ဆောင်ရွက်မည့်ကာလအဖြစ် လ(၃၀) လျာထားသတ်မှတ်ပြီး စီးပွားရေးရာကော်မတီသို့ (၂၄-၈-၂၀၁၆) ရက်စွဲပါစာဖြင့် တင်ပြခဲ့သော်လည်း (၂၀-၁၀-၂၀၁၆)ရက်နေ့ ၊ (၁၃:၀၀)နာရီအချိန် ပြည်နယ်အစိုးရ အဖွဲ့ရုံးတွင် မွန်ပြည်နယ်ဝန်ကြီးချုပ်၊ စိုက်ပျိုးမွေးမြူရေးနှင့်ပို့ဆောင်ဆက်သွယ်ရေးဝန်ကြီး၊ စီမံကိန်း၊ ဘဏ္ဍာရေး၊လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးတို့နှင့် Myanmar Tap Water Co.,Ltdမှ Managing Director ဖြစ်သူ Mr. Chaiwat Utaiwan ဦးဆောင်သောအဖွဲ့မှ တာဝန်ရှိသူများ

တွေ့ဆုံဆွေးနွေးခဲ့ရာတွင်ကုမ္ပဏီမှ လ(၃၀)အစား (၁၈)လအတွင်း ပြီးစီးနိုင်မည်ဟု ညှိနှိုင်းသဘောတူခဲ့ပါကြောင်း၊ B.O.Tစနစ်ဖြင့် နှစ်(၃၀)ကာလ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ (၅-၇-၂၀၁၇)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မွန်ပြည်နယ်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၂၇/၂၀၁၇)ဆုံးဖြတ်ချက်အပိုဒ်(၂၈)အရ Myanmar Tap Water Co.,Ltd က မော်လမြိုင် မြို့တွင် အတ္တရံမြစ်မှမြစ်ရေကိုသန့်စင်ပြီး ရေဖြန့်ဝေခြင်းအား မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့ နှင့် B.O.T စနစ်ဖြင့် ဆောင်ရွက်ရန် သဘောတူကြောင်းနှင့် ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြရန် ဆုံးဖြတ်ခဲ့ပါကြောင်းနှင့် တစ်ရက်ရေပေးဝေနိုင်မည့် ပမာဏမှာ 30000 $m^3$ /day (6,600,000 gal/day)ဖြစ်ပြီး **တစ်ယူနစ်(၂၂၀ဂါလန်)ရေဖိုး**တွင် အိမ်သုံးအတွက်(၁-၁၅)ယူနစ်အတွင်း ငွေကျပ်(၂၀၀) နှုန်းဖြင့်လည်းကောင်း၊ (၁၆) ယူနစ်အထက် ငွေကျပ် (၃၀၀)နှုန်းဖြင့်လည်းကောင်း ကောက်ခံပြီး စီးပွားရေးလုပ်ငန်းသုံးများအတွက် (၁-၁၀၀) ယူနစ်အတွင်း ငွေကျပ်(၄၀၀)နှုန်းဖြင့်လည်းကောင်း၊ (၁၀၁-၂၀၀)ယူနစ်အတွင်း ငွေကျပ်(၅၀၀)နှုန်းဖြင့် လည်းကောင်း၊ (၂၀၀)ယူနစ်အထက် ငွေကျပ်(၆၅၀)နှုန်းဖြင့်လည်းကောင်း ကောက်ခံသွားမည်ဖြစ်ကြောင်းနှင့် လုပ်ငန်းများဆောင်ရွက်နိုင်ရန် မြို့နယ်စည်ပင်သာယာရေးအဖွဲ့ပိုင် အတ္တရံ(၂)ရေပေးရေးဂဝ်၊ စနေဒိုင်ရေစက်ရုံနှင့် တောင်ရိုးတန်းရေလှောင်ကန်တည်ရှိသည့် မြေဧရိယာ ဧက(၆.၂၅၈)ရှိ မြေနေရာတွင် B.O.T စနစ်ဆောင်ရွက်ခြင်းဖြင့် မြို့နယ်စည်ပင်သာယာရေးအဖွဲ့မှ အောက်ပါအတိုင်း အကျိုးခံစားခွင့်ရရှိနိုင်မည်ဖြစ်ပါသည်-

(က) ရေတစ်ယူနစ်ရောင်းချလျှင် မြို့နယ်စည်ပင်သာယာရေးအဖွဲ့အနေဖြင့်( ၅) ကျပ်ရရှိမည်ဖြစ်ပါသည်။

(ခ) မြေငှားရမ်းသူသည် စာချုပ်ချုပ်ဆိုသည့်နေ့တွင် ပရီမီယံကြေးအဖြစ် ကျပ်(၁၀,၀၀၀,၀၀၀/-)(ကျပ်တစ်ရာသိန်း)ကို မော်လမြိုင်မြို့နယ် စည်ပင်သာယာရေးအဖွဲ့သို့ ပေးသွင်းရမည့်အပြင် မြေငှားရမ်းခကို အောက်ပါအတိုင်း ပေးသွင်းရမည်ဖြစ်ပါသည်-

| | | |
|---|---|---|
| (၁) | (၁)နှစ်မှ (၅)နှစ်အထိ (၁)လလျှင် | ငွေကျပ်(၂၀၀,၀၀၀) |
| (၂) | (၆)နှစ်မှ (၁၀)နှစ်အထိ (၁)လလျှင် | ငွေကျပ်(၃၀၀,၀၀၀) |
| (၃) | (၁၁)နှစ်မြောက်နှစ်အတွက်(၁)လလျှင် | ငွေကျပ်(၅၀၀,၀၀၀) |

(၄) (၁၂)နှစ်မြောက် နှစ်မှစ၍ ၅% တိုးမြှင့်ကောက်ခံသွားမည်ဖြစ်ပါသည်။

(ဂ) မြို့နယ်စည်ပင်သာယာရေးအဖွဲ့အနေဖြင့် ရေကောင်းရေသန့် ရရှိရေးတွင် ရင်းနှီးမြှုပ်နှံရန် မလိုအပ်ခြင်းကြောင့် အခြားမြို့စည်ပင်သာယာရေး လုပ်ငန်းများတွင် ဘဏ္ဍာငွေ ပိုမိုသုံးစွဲနိုင်မည်ဖြစ်ပါသည်။

၄။ အဆိုပါစီမံကိန်းဆောင်ရွက်ခြင်းဖြင့် မော်လမြိုင်မြို့ပေါ် (၁၂)ရပ်ကွက်ရှိ ပြည်သူ(၁၀၆,၅၄၈) ယောက်သည် သန့်ရှင်းသော သောက်သုံးရေများအား နေ့စဉ်(၂၄)နာရီ ရရှိစေခြင်း၊ မသန့်ရှင်းသော

ရေကြောင့် ဖြစ်ပွားသောရောဂါများ ကင်းဝေးပြီး ကျန်းမာရေးအတွက် ကုန်ကျငွေများ လျှော့ချနိုင်၍ လူနေမှုဘဝများ တိုးတက်လာစေခြင်း၊ သုံးစွဲရမည့် ရေတန်ဖိုးမှာလည်း အများပြည်သူ သုံးစွဲနိုင်သည့် နှုန်းဖြစ်ခြင်းကြောင့် ပြည်သူကို ဝန်ထုပ်ဝန်ပိုးမဖြစ်စေနိုင်ခြင်းနှင့် စီမံကိန်းဧရိယာတွင် မီးသတ်ငုတ် တပ်ဆင်ပေးခြင်းဖြင့် မီးဘေးအန္တရာယ်ကာကွယ်မှုပေးနိုင်ခြင်းစသည့် ခံစားခွင့်များရရှိနိုင်မည်ဖြစ် ပါသည်။

၅။ အဆိုပါကိစ္စနှင့်ပတ်သက်၍ စီးပွားရေးရာကော်မတီအစည်းအဝေးအမှတ်စဉ်(၁၁/၂၀၁၆)သို့ တင်ပြခဲ့ရာပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြဆောင်ရွက်သွားရန်ဖြစ်ကြောင်းကို **(နောက်ဆက်တွဲ-က)**ဖြင့်လည်းကောင်း၊ နိုင်ငံတော်သမ္မတရုံးမှလည်း လုပ်ထုံးလုပ်နည်းနှင့်အညီ ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြသွားရန် **(နောက်ဆက်တွဲ-ခ)**ဖြင့် လည်းကောင်း အကြောင်းကြားလာပါသည်။

၆။ **ဆုံးဖြတ်ရန်အချက်** ။ ထိုင်းနိုင်ငံ Thai Water Operation Co.,Ltd မှ (၇၀%) နှင့် မြန်မာနိုင်ငံ Z Corporation Co.,Ltd မှ (၃၀%)ဖြင့် အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myanmar Tap Water Co.,Ltd တည်ထောင်၍ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မော်လမြိုင်မြို့တွင် အတ္တရံမြစ်မှမြစ်ရေကို သန့်စင်ပြီး ရေဖြန့်ဝေခြင်းလုပ်ငန်းအား မော်လမြိုင်မြို့နယ် စည်ပင်သာယာရေးအဖွဲ့ နှင့် B.O.T စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ/ မတူ။

၇။ **မွန်ပြည်နယ်အစိုးရအဖွဲ့၏ထောက်ခံချက်** ။ ထိုင်းနိုင်ငံ Thai Water Operation Co.,Ltd မှ (၇၀%) နှင့် မြန်မာနိုင်ငံ Z Corporation Co.,Ltd မှ (၃၀%)ဖြင့် အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myanmar Tap Water Co.,Ltd တည်ထောင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မော်လမြိုင်မြို့တွင် အတ္တရံမြစ်မှမြစ်ရေကို သန့်စင်ပြီး ရေဖြန့်ဝေခြင်းလုပ်ငန်းအား မော်လမြိုင်မြို့နယ် စည်ပင်သာယာရေးအဖွဲ့ နှင့် B.O.T စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် ထောက်ခံတင်ပြအပ်ပါသည်။

ဒေါက်တာအေးဇံ
ဝန်ကြီးချုပ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ၊ ပြည်ထောင်စုအစိုးရအဖွဲ့

<u>နောက်ဆက်တွဲ (က)</u>



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
မွန်ပြည်နယ်

စာအမှတ် ၊ ၂၀၀ / ၂ - ၁ / ဝ၈ရ(မွန်) (ထုတ်)
ရက် စွဲ၊ ၂၀၁၆ ခုနှစ် ၊ ဩဂုတ် လ ၂၄ ရက်

<u>ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီသို့ တင်ပြသည့်အမှာစာ</u>

အကြောင်းအရာ ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အတ္တရံမြစ်မှမြစ်ရေကိုသန့်စင်၍ ဖြန့်ဝေခြင်းလုပ်ငန်းအား BOT စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ

၁။ ထိုင်းနိုင်ငံ Thai Water Operation Co.,Ltd မှ (၇၀%) နှင့် မြန်မာနိုင်ငံ Z Corporation Co.,Ltd မှ (၃၀%)ဖြင့် အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myanmar Tap Water Co.,Ltd တည်ထောင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မော်လမြိုင်မြို့တွင် အတ္တရံမြစ်မှမြစ်ရေကို သန့်စင်ပြီး ရေဖြန့်ဝေခြင်းလုပ်ငန်းအား မော်လမြိုင်မြို့နယ် စည်ပင်သာယာရေးအဖွဲ့နှင့် BOT စနစ်ဖြင့် ဆောင်ရွက်သွားရန် ခွင့်ပြုမိန့်ချမှတ်ပေးနိုင်ရေး စီးပွားရေးရာကော်မတီအစည်းအဝေးတွင် ထည့်သွင်းဆွေးနွေးပြီး ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြဆွေးနွေးပေးနိုင်ရေးအတွက် လိုအပ်သလိုဆောင်ရွက်ပေးနိုင်ပါရန် (၄-၈-၂၀၁၆) ရက်စွဲပါစာဖြင့် စီးပွားရေးရာကော်မတီသို့တင်ပြပြီးဖြစ်ပါသည်။ (နောက်ဆက်တွဲ က)

၂။ မော်လမြိုင်မြို့ပေါ် (၂၉)ရပ်ကွက် အနက် (၂၂)ရပ်ကွက်ကို ရေပေးဝေရာတွင် ရေသန့်စနစ်တည်ဆောက်နိုင်ခြင်းမရှိဘဲ လက်ရှိရေလိုအပ်ချက်၏ (၅၅%)သာ ပေးဝေနိုင်ခြင်း၊ လူအများစုမှာ အဝီစိတွင်း၊ လက်တူးတွင်း၊ မြေသားရေလှောင်ကန်၊ အများသုံးရေကန်များမှ ရေယူသုံးစွဲလျက်ရှိခြင်းတို့ကြောင့် သန့်ရှင်းသောရေ လုံလောက်စွာပေးဝေနိုင်ရေးအတွက် အဆိုပါ ရေဖြန့်ဝေခြင်းလုပ်ငန်းသည် အရေးတကြီးလုပ်ဆောင်ရန် လိုအပ်လျက်ရှိပါသည်။

၃။ သို့ဖြစ်ပါ၍ Myanmar Tap Water Co.,Ltd ၏ မော်လမြိုင်မြို့တွင် ရေသန့်စင်ခြင်းလုပ်ငန်းဆောင်ရွက်မှုသည် မော်လမြိုင်မြို့နေ ပြည်သူလူထု၏ လိုလားချက်နှင့်ကိုက်ညီသည့် အများပြည်သူဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းဖြစ်ပြီး အမှန်တကယ်ဆောင်ရွက်ရန် လိုအပ်သောလုပ်ငန်း ဖြစ်ပါကြောင်း၊ စီမံကိန်းနှင့်ပတ်သက်၍ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ (12 mil.USD) ကုန်ကျမည်ဖြစ်ကြောင်း၊ စီမံကိန်းဆောင်ရွက်မည့် ကာလအဖြစ် လ(၃၀) လျာထားသတ်မှတ်ပြီး BOTစနစ်ဖြင့် နှစ်(၃၀)ကာလ ဆောင်ရွက်မည်ဖြစ်ကြောင်းနှင့် တစ်ရက်ရေပေးဝေနိုင်မည့် ပမာဏမှာ 30000 $m^3$ /day (6,600,000 gal/day)

ဖြစ်ပြီး တစ်ယူနစ်ရေဖိုး (၂၂၀)ဂါလံတွင် အိမ်သုံးအတွက် (၀ - ၁၅) ယူနစ်အတွင်း (၂၀ဝိ/-)ကျပ်နှုန်းဖြင့်လည်းကောင်း၊ (၁၆)ယူနစ်အထက် (၃၀ဝိ-)ကျပ်နှုန်းဖြင့်လည်းကောင်း ကောက်ခံပြီး စီးပွားရေးလုပ်ငန်းသုံးများအတွက် (၀ - ၁၀၀)ယူနစ်အတွင်း (၄၀ဝိ/-) ကျပ်နှုန်းဖြင့်လည်းကောင်း၊ (၁၀၁ - ၂၀၀) ယူနစ်အတွင်း (၅၀ဝိ/-)ကျပ်နှုန်းဖြင့်လည်းကောင်း၊ (၂၀၀) ယူနစ်အထက် (၆၅ဝိ/-) ကျပ်နှုန်းဖြင့်လည်းကောင်း ကောက်ခံသွားမည်ဖြစ်ကြောင်းနှင့် လုပ်ငန်းများဆောင်ရွက်နိုင်ရန် မြို့နယ်စည်ပင်သာယာရေးအဖွဲ့ပိုင် အတွဲရုံ(၂) ရေပေးရေးဝင်း၊ စနေဒိုင် ရေစက်ရုံ၊ တောင်ရိုးတန်းရေလှောင်ကန် စသည့် စုစုပေါင်းဧက(၆.၂၅၈)ရှိ မြေနေရာတွင် BOTစနစ် ဆောင်ရွက်ခြင်းဖြင့် မြို့နယ်စည်ပင်သာယာရေးအဖွဲ့မှ အောက်ပါအတိုင်း အကျိုးခံစားခွင့်ရရှိနိုင်မည်ဖြစ်ပါသည်-

(က) ရေတစ်ယူနစ်ရောင်းချလျှင် မြို့နယ်စည်ပင်သာယာရေးအဖွဲ့အနေဖြင့်( ၅) ကျပ်ရရှိမည်ဖြစ်ပါသည်။

(ခ) မြေငှားရမ်းသူသည် စာချုပ်ချုပ်ဆိုသည့်နေ့တွင် ပရီမီယံကြေးအဖြစ် ကျပ်သိန်း(၁၀၀)တိတိကို မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့သို့ ပေးသွင်းရမည့်အပြင် မြေငှားရမ်းခကို အောက်ပါအတိုင်း ပေးသွင်းရမည်ဖြစ်ပါသည်-

(၁) (၁)နှစ်မှ (၅)နှစ်အထိ (၁)လလျှင် (၂၀၀၀၀ဝိ/-)
(၂) (၆)နှစ်မှ (၁၀)နှစ်အထိ (၁)လလျှင် (၃၀၀၀၀ဝိ/-)
(၃) (၁၁)နှစ်မြောက် နှစ်အတွက် (၁)လလျှင် (၅၀၀၀၀ဝိ/-)
(၄) (၁၂)နှစ်မြောက် နှစ်မှစ၍ ၅% တိုးမြှင့်ကောက်ခံသွားမည်ဖြစ်ပါသည်။

(ဂ) မြို့နယ်စည်ပင်သာယာရေးအဖွဲ့အနေဖြင့် ရေကောင်းရေသန့်ရရှိရေးတွင် ရင်းနှီးမြှုပ်နှံရန် မလိုအပ်ခြင်းကြောင့် အခြားမြို့စည်ပင်သာယာရေးလုပ်ငန်းများတွင် ဘဏ္ဍာငွေ ပိုမိုသုံးစွဲနိုင်မည်ဖြစ်ပါသည်။

၄။ အဆိုပါစီမံကိန်းဆောင်ရွက်ခြင်းဖြင့် ပြည်သူလူထုများအနေဖြင့် မြို့ပေါ် (၁၂)ရပ်ကွက်ရှိ ပြည်သူ(၁၀၆၅၄၈)ယောက်သည် သန့်ရှင်းသော သောက်သုံးရေများအား နေ့စဉ်(၂၄)နာရီ ရရှိစေခြင်း၊ မသန့်ရှင်းသောရေကြောင့် ဖြစ်ပွားသော ရောဂါများ ကင်းဝေးပြီး ကျန်းမာရေးအတွက် ကုန်ကျငွေများ လျှော့ချနိုင်၍ လူနေမှုဘဝများ တိုးတက်လာစေခြင်း၊ သုံးစွဲရမည့် ရေတန်ဖိုးမှာလည်း အများပြည်သူ သုံးစွဲနိုင်သည့်နှုန်းဖြစ်ခြင်းကြောင့် ပြည်သူလူထုကိုဝန်ထုပ်ဝန်ပိုးမဖြစ်စေနိုင်ခြင်း၊စီမံကိန်းဧရိယာတွင် မီးသတ်ဝှတ်တပ်ဆင်ပေးခြင်းဖြင့် မီးဘေးအန္တရာယ်ကာကွယ်မှု ပေးနိုင်ခြင်း စသည့်ခံစားခွင့်များရရှိနိုင်မည်ဖြစ်ပါသည်။

၅။ <u>ဆုံးဖြတ်ရန်အချက်</u> ။ ထိုင်းနိုင်ငံ Thai Water Operation Co.,Ltd မှ (၇၀%) နှင့် မြန်မာနိုင်ငံ Z Corporation Co.,Ltd မှ (၃၀%)ဖြင့် အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myanmar Tap Water Co.,Ltd တည်ထောင်၍ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မော်လမြိုင်မြို့တွင် အတ္တရံ မြစ်မှမြစ်ရေကို သန့်စင်ပြီး ရေဖြန့်ဝေခြင်း လုပ်ငန်းကို မော်လမြိုင်မြို့နယ် စည်ပင်သာယာရေးအဖွဲ့ နှင့် BOT စနစ်ဖြင့်ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြသည့်အဆိုပြုချက်အပေါ် သဘောတူ/ မတူ။

၆။ <u>မွန်ပြည်နယ်အစိုးရအဖွဲ့၏သဘောထား</u> ။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် အတ္တရံမြစ်မှ မြစ်ရေကို သန့်စင်ပြီး BOT စနစ်ဖြင့် ရေဖြန့်ဝေခြင်းလုပ်ငန်းသည် မော်လမြိုင်မြို့နေ ပြည်သူ လူထု၏လိုလားချက်အရ အများပြည်သူဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းဖြစ်ပြီး အမှန်တကယ် ဆောင်ရွက်ရန် လိုအပ်သည့် လုပ်ငန်းဖြစ်ပါသဖြင့် ကန့်ကွက်ရန်မရှိကြောင်း တင်ပြအပ်ပါသည်။

Nilb ၂၄.၉

မင်းမင်းဦး

ဝန်ကြီးချုပ်

ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီ

လျှို့ဝှက်

၇

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပြည်နယ်အစိုးရအဖွဲ့
# မွန်ပြည်နယ်

စာအမှတ်၊ ၂၀၀ / ၂ - ၁ / ၀၁၇(မွန်)(၀၁၃၆)

ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အတ္တရံမြစ်မှမြစ်ရေကိုသန့်စင်၍ ဖြန့်ဝေခြင်းလုပ်ငန်းအား BOT စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ

အကျဉ်းချုပ် ။ ထိုင်းနိုင်ငံ Thai Water Operation Co.,Ltd မှ (၇၀%) နှင့် မြန်မာနိုင်ငံ Z Corporation Co.,Ltd မှ (၃၀%)ဖြင့် အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myanmar Tap Water Co.,Ltd တည်ထောင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မော်လမြိုင်မြို့တွင် အတ္တရံမြစ်မှမြစ်ရေကို သန့်စင်ပြီး ရေဖြန့်ဝေခြင်းလုပ်ငန်းအား မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့နှင့် BOT စနစ်ဖြင့် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ မော်လမြိုင်မြို့တွင် ရေသန့်စင်ခြင်းလုပ်ငန်းဆောင်ရွက်မှုသည် မော်လမြိုင်မြို့နေ ပြည်သူလူထု၏ လိုလားချက်နှင့်ကိုက်ညီသည့် အများပြည်သူဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းဖြစ်ပြီး အမှန်တကယ်ဆောင်ရွက်ရန် လိုအပ်သော လုပ်ငန်းဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

ဆုံးဖြတ်ရန်အချက် ။ ဆုံးဖြတ်ရန်အချက် ။ ထိုင်းနိုင်ငံ Thai Water Operation Co.,Ltd မှ (၇၀%) နှင့် မြန်မာနိုင်ငံ Z Corporation Co.,Ltd မှ (၃၀%)ဖြင့် အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myanmar Tap Water Co.,Ltd တည်ထောင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မော်လမြိုင်မြို့တွင် အတ္တရံ မြစ်မှမြစ်ရေကို သန့်စင်ပြီး ရေဖြန့်ဝေခြင်းလုပ်ငန်းကို မော်လမြိုင်မြို့နယ် စည်ပင်သာယာရေးအဖွဲ့ နှင့် BOT စနစ်ဖြင့်ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြသည့် အဆိုပြုချက်အပေါ် သဘောတူ/ မတူ။

(signature) ၃.၄.၉

မင်းမင်းဦး

ဝန်ကြီးချုပ်

လျှို့ဝှက်

နောက်ဆက်တွဲ (ခ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

နိုင်ငံတော်သမ္မတရုံး

စာအမှတ်၊ ၈၉ (၁၀)(၁) / ၇ / သမ္မတရုံး

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ ၅ ရက်

လျှို့ဝှက် / ကြေးနန်း [illegible] ၃၇၃၆ [illegible] ၁၄-၁၀-၁၆ [illegible] ၁၀:၀၀

သို့

မွန်ပြည်နယ်အစိုးရအဖွဲ့

အကြောင်းအရာ။ BOT စနစ်ဖြင့် ဆောင်ရွက်ခွင့်ကိစ္စ

ရည်ညွှန်းချက်။ (၁) ယင်း၏၄-၈-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ၂၀၀/ ၂ -၁ / ၀၈၇ (မွန်)(၀၀၄၃)

(၂) စီးပွားရေးရာကော်မတီ၏ ၄-၁၀-၂၀၁၆ ရက်စွဲပါစာအမှတ်၊ စီးပွားကော်မတီ/ အစိုးရအဖွဲ့ ( ၃၃ / ၂၀၁၆ )

ထိုင်းနိုင်ငံ Thai Water Operation Co.,Ltd မှ ( ၇၀% ) နှင့် မြန်မာနိုင်ငံ Z Coporation Co.,Ltd မှ (၃၀ %) ဖြင့် အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myanmar Tap Water Co.,Ltd တည်ထောင်ပြီး အတ္ထရံမြစ်ရေသန့်စင်ခြင်းနှင့် ရေပေးဝေခြင်းလုပ်ငန်းကို မော်လမြိုင်မြို့နယ်စည်ပင်သာယာရေး အဖွဲ့နှင့် BOT စနစ်ဖြင့် နှစ် ( ၃၀ ) ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းစာ ( ၁ ) ဖြင့် တင်ပြလာခြင်းအား လုပ်ထုံးလုပ်နည်းနှင့်အညီ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြဆောင်ရွက်သွားရန် အကြောင်းကြား အပ်ပါသည်။

ဝင်းကျော်အောင်

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

သမ္မတဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

နိုင်ငံတော်အတိုင်ပင်ခံရုံးဝန်ကြီးဌာန

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
မွန်ပြည်နယ်

စာအမှတ်၊ ၂၀၀ / ၂ - ၁ / အဖရ(မွန်)(၀၆၅၈)

**ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အတ္တရံမြစ်မှမြစ်ရေကိုသန့်စင်၍ ဖြန့်ဝေခြင်းလုပ်ငန်းအား BOT စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ**

**အကျဉ်းချုပ်။** ထိုင်းနိုင်ငံ Thai Water Operation Co.,Ltd မှ (၇၀%) နှင့် မြန်မာနိုင်ငံ Z Corporation Co.,Ltd မှ (၃၀%)ဖြင့် အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myanmar Tap Water Co.,Ltd တည်ထောင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မော်လမြိုင်မြို့တွင် အတ္တရံမြစ်မှမြစ်ရေကို သန့်စင်ပြီး ရေဖြန့်ဝေခြင်းလုပ်ငန်းအား မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့နှင့် BOT စနစ်ဖြင့် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ မော်လမြိုင်မြို့တွင် ရေသန့်စင်ခြင်းလုပ်ငန်းဆောင်ရွက်မှုသည် မော်လမြိုင်မြို့နေ ပြည်သူများ၏ လိုလားချက်နှင့်ကိုက်ညီသည့် အများပြည်သူဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းဖြစ်ပြီး အမှန်တကယ်ဆောင်ရွက်ရန် လိုအပ်သော လုပ်ငန်းဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

**ဆုံးဖြတ်ရန်အချက်။** ထိုင်းနိုင်ငံ Thai Water Operation Co.,Ltd မှ (၇၀%) နှင့် မြန်မာနိုင်ငံ Z Corporation Co.,Ltd မှ (၃၀%)ဖြင့် အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myanmar Tap Water Co.,Ltd တည်ထောင်၍ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မော်လမြိုင်မြို့တွင် အတ္တရံမြစ်မှမြစ်ရေကို သန့်စင်ပြီး ရေဖြန့်ဝေခြင်းလုပ်ငန်းအား မော်လမြိုင်မြို့နယ်စည်ပင်သာယာရေး အဖွဲ့နှင့် BOT စနစ်ဖြင့်ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ/ မတူ။

ဒေါက်တာအေးဇံ
ဝန်ကြီးချုပ်

ရုံးတံဆိပ်

ပြည် နယ် စည် ပင် သာ ယာ ရေး အ ဖွဲ့
မွန် ပြည် နယ် မော် လ မြိုင် မြို့
စာအမှတ်၊ ၄၀၇၂ / ၇ - ၈ / မပစ ( ၀၂၀ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊အောက်တိုဘာလ ၂ ရက်

သို့

M4-0959
3.10.17

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **အဆိုပြုလွှာ(Proposal)ပေးပို့တင်ပြခြင်း**

ရည်ညွှန်းချက်။ မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၏(၁၇.၈.၂၀၁၇)ရက်စွဲပါစာအမှတ်၊ ၂၀၀/၂ -၂ /အဖရ(မွန်)(၀၇၆၆)

၁။ မော်လမြိုင်မြို့သည်(၅၃)စတုရန်းကီလိုမီတာကျယ်ဝန်းပြီး၊မြို့ပေါ်(၂၉)ရပ်ကွက်အနက် (၂၂)ရပ်ကွက်သို့ရေပေးဝေလျှက်ရှိပါသည်။ရေပေးဝေရာတွင်ရေသန့်စနစ်တည်ဆောက်နိုင်ခြင်းမရှိဘဲပေးဝေလျှက်ရှိခြင်း၊လက်ရှိရေလိုအပ်ချက်၏(၅၅ %)သာပေးဝေနိုင်ခြင်း၊လူအများစုမှာ ကိုယ်ပိုင်အဝီစိတွင်း၊လက်တူးတွင်း၊မြေသားရေလှောင်ကန်၊အများသုံးရေကန်များမှရေယူသုံးစွဲလျှက်ရှိခြင်းတို့ကြောင့်သန့်ရှင်းသောရေလုံလောက်စွာပေးဝေနိုင်ရေးအရေးတကြီးလုပ်ဆောင်ရန် လိုအပ်လျှက်ရှိပါသည်။

၂။ အဆိုပါလိုအပ်ချက်ကိုဖြည့်ဆည်းနိုင်ရန် ထိုင်းနိုင်ငံ Thai Water Operation Co.,Ltd.မှ(၇၀ %)နှင့်မြန်မာနိုင်ငံ Z Coporation Co.,Ltd. မှ(၃၀ %)ဖြင့် အစုရှယ်ယာများထည့်ဝင်၍မြန်မာနိုင်ငံတွင် Myanmar Tap Water Co.,Ltd တည်ထောင်ပြီးဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မော်လမြိုင်မြို့တွင် အတ္တရံမြစ်မှ မြစ်ရေကိုသန့်စင်ပြီး ရေပေးဝေခြင်းလုပ်ငန်းအား မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့နှင့် BOT စနစ်ဖြင့် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၃။ စီမံကိန်းနှင့်ပတ်သက်၍လုပ်ငန်းဆောင်ရွက်မည့် အသေးစိတ်အချက်အလက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | လုပ်ငန်းအမည် | - | မော်လမြိုင်မြို့တွင် အတ္တရံမြစ်မှမြစ်ရေကိုသန့်စင်ပြီး ရေပေးဝေခြင်းလုပ်ငန်း |
| (ခ) | လုပ်ငန်းဆောင်ရွက်မည့်အဖွဲ့ | - | Myanmar Tap Water Co.,Ltd. |
| (ဂ) | ရင်းနှီးမြှုပ်နှံမည့်ပမာဏ | - | $12 million |
| (ဃ) | ဆောင်ရွက်မည့်စနစ်နှင့်ကာလ | - | BOT ( 30 years ) |
| (င) | ရေအရည်အသွေး | - | Treated Water ( WHO Standard ) |
| (စ) | တစ်ရက်ရေပေးနိုင်မည့်ပမာဏ | - | 30000 $m^3$/day |
| (ဆ) | စီးပွားဖြစ်စတင်လည်ပတ်မည့်ကာလ | - | 18 month |

(ဇ) တစ်ယူနစ်တန်ဘိုး(၂၂၀ဂါလံ) - **Household Type**

| | |
|---|---|
| 0~15 m³/month | 200Kyats/m³ |
| > 16 m³/month | 300Kyats/m³ |

**Bussiness Type**

| | |
|---|---|
| 0~100 m³/month | 400Kyats/m³ |
| 101~200 m³/month | 300Kyats/m³ |
| >200 m³/month | 650Kyat/m³ |

၄။ အဆိုပါလုပ်ငန်းဆောင်ရွက်နိုင်ရန် မြို့နယ်စည်ပင်သာယာရေးအဖွဲ့ပိုင် အောက်ဖော်ပြပါမြေနေရာများ အသုံးပြုခွင့်ပေးရမည်ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | အတ္တရံ(၂)ရေပေးရေးဝင်း | - | ၄.၅၉၁ ဧက |
| (ခ) | စနေဒိုင်ရေစက်ရုံ | - | ၀.၉၁၆ ဧက |
| (ဂ) | တောင်ရိုးတန်းရေလှောင်ကန် | - | ၀.ရ၅၁ ဧက |
| | **စုစုပေါင်း** | - | **၆.၂၅၈ ဧက** |

၅။ BOT စနစ်ဖြင့်ဆောင်ရွက်ခြင်းဖြင့် မြို့နယ်စည်ပင်သာယာရေးအဖွဲ့မှ အောက်ပါအတိုင်း အကျိုးခံစားခွင့်ရရှိနိုင်မည်ဖြစ်ပါသည်-

(က) ရေတစ်ယူနစ်ရောင်းချလျှင် မြို့နယ်စည်ပင်သာယာရေးအဖွဲ့အနေဖြင့် (၅/-)ရရှိမည်ဖြစ်ပါသည်။

(ခ) မြေငှားရမ်းသူသည် စာချုပ်ချုပ်ဆိုသည့်နေ့တွင် ပရီမီယံကြေးအဖြစ် ကျပ်သိန်း(၁၀၀)တိတိကို မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့သို့ပေးသွင်းရမည်ဖြစ်ပါသည်။

(ဂ) မြေငှားရမ်းခအဖြစ်အောက်ပါအတိုင်းပေးသွင်းရမည်ဖြစ်ပါသည်-

| | | |
|---|---|---|
| (ကက) | (၁)နှစ်မှ(၅)နှစ်အထိတစ်လလျှင် | (၂၀၀၀၀၀ိ/-) |
| (ခခ) | (၆)နှစ်မှ(၁၀)နှစ်အထိတစ်လလျှင် | (၃၀၀၀၀၀ိ/-) |
| (ဂဂ) | (၁၁)နှစ်မြောက်နှစ်အတွက်တစ်လလျှင် | (၅၀၀၀၀၀ိ/-) |

(ဃဃ) (၁၂)နှစ်မြောက်နှစ်မှစ၍ (၅%)တိုးမြှင့်ကောက်ခံသွားမည်ဖြစ်ပါသည်။

(ဃ) မြို့နယ်စည်ပင်သာယာရေးအဖွဲ့အနေဖြင့် ရေကောင်းရေသန့်ရရှိရေးတွင် ရင်းနှီးမြှုပ်နှံရန်မလိုအပ်ခြင်းကြောင့် အခြားမြို့စည်ပင်သာယာရေးလုပ်ငန်းများတွင် ဘဏ္ဍာငွေပိုမိုသုံးစွဲနိုင်မည်ဖြစ်ပါသည်။

၆။ စီမံကိန်းဆောင်ရွက်ခြင်းဖြင့်ပြည်သူလူထုအနေဖြင့် အောက်ပါအချက်များခံစားခွင့်ရရှိနိုင်မည်ဖြစ်ပါသည်-

(က) မော်လမြိုင်မြို့ပေါ်(၂၉)ရပ်ကွက်မှ စီမံကိန်းဧရိယာအတွင်းပါဝင်သောမြို့ပေါ်(၁၂)ရပ်ကွက်ရှိပြည်သူ(၁၀၆၄၅)ယောက်သည် သန့်ရှင်းသောသောက်သုံးရေများအား နေ့စဉ်(၂၄)နာရီရရှိစေခြင်း၊

(ခ) မသန့်ရှင်းသောရေကြောင့်ဖြစ်ပွားသောရောဂါများကင်းဝေးပြီးကျန်းမာရေးအတွက်ကုန်ကျငွေများလျော့ချနိုင်၍ လူနေမှုဘဝများဖွံ့ဖြိုးတိုးတက်လာစေခြင်း၊

(ဂ) သုံးစွဲရမည့်ရေတန်ဘိုးမှာလည်း အများပြည်သူသုံးစွဲနိုင်သည့်နှုန်းဖြစ်ခြင်းကြောင့် ပြည်သူလူထုကိုဝန်ထုပ်ဝန်ပိုးမဖြစ်စေနိုင်ခြင်း၊

(ဃ) စီမံကိန်းဧရိယာအတွင်းမီးသတ်ရေငုတ်များတပ်ဆင်ပေးခြင်းဖြင့်မီးဘေးအန္တရာယ် ကာကွယ်မှု ပေးနိုင်ခြင်း၊

၇။ လူမှုစီးပွားဖွံ့ဖြိုးတိုးတက်မှုအနေဖြင့်လည်း အောက်ပါတို့ကိုခံစားရမည်ဖြစ်ပါသည်-

(က) ရေကောင်းရေသန့်ရရှိခြင်းကြောင့် ကူးသန်းရောင်းဝယ်ရေးနှင့်ဒေသအတွင်းစက်ရုံအလုပ်ရုံများသည် စီးပွားရေးအခွင့်အလမ်းတိုးတက်မှုရရှိနိုင်ခြင်း၊

(ခ) အလုပ်အကိုင်အခွင့်အလမ်းတိုးတက်ရရှိနိုင်ပြီး လုပ်ငန်းလိုအပ်ချက်တွင်ဒေသခံ(၈၅)ဦးအား အလုပ်တာဝန်ပေးနိုင်ခြင်းနှင့်ကျွမ်းကျင်ဝန်ထမ်းများ မွေးထုတ်ပေးနိုင်ခြင်း၊

(ဂ) ရေကောင်းရေသန့်ရရှိမှုကြောင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုများ ဝင်ရောက်လာနိုင်သည်ဖြစ်၍ အလုပ်အကိုင်အခွင့်အလမ်းများတိုးတက်ရရှိလာနိုင်ပြီးပြည်နယ်အစိုးရအနေဖြင့် အခွန်ဘဏ္ဍာများလည်း တိုးတက်ရရှိလာနိုင်ခြင်း၊

(ဃ) စည်ပင်သာယာရေးအဖွဲ့အနေဖြင့် စီမံကိန်းမှနည်းပညာလွှဲပြောင်းရရှိလာနိုင်ခြင်း၊ကျွမ်းကျင်မှုဆိုင်ရာသင်တန်းများတက်ရောက်နိုင်ခြင်းနှင့် ကျွမ်းကျင်လုပ်သားများမွေးထုတ်နိုင်ခြင်းတို့ကို အထောက်အကူပြုနိုင်မည်ဖြစ်ပါသည်။

၈။ စီမံကိန်းဆောင်ရွက်ရာတွင် ရေတို/ရေရှည်အကျိုးကိုမျှော်မှန်းပြီးတည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်သွားနိုင်ရန် BOT စာချုပ်မူကြမ်းနှင့် မြေငှားစာချုပ်များရေးဆွဲပြီး ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့တင်ပြခြင်း၊ပြည်နယ်လွှတ်တော်သို့တင်ပြခြင်း၊အကြံပြုချက်များကို ပြန်လည်ပြင်ဆင်ခြင်း၊အများပြည်သူတို့၏သဘောထားရယူခြင်း၊သဘာဝပတ်ဝန်းကျင်ထိခိုက်နိုင်မှုရှိ/မရှိဆန်းစစ်လေ့လာခြင်း၊စီပွားရေးကော်မတီသို့တင်ပြခြင်း၊ပြည်ထောင်စုအစိုးရအဖွဲ့သို့တင်ပြခြင်းများကို ဆောင်ရွက်ခဲ့ပါသည်။

၉။ သို့ဖြစ်ပါ၍ Myanmar Tap Water Co.,Ltd ၏မော်လမြိုင်မြို့တွင် ရေသန့်စင်ခြင်းလုပ်ငန်းဆောင်ရွက်မှုသည် မော်လမြိုင်မြို့နေပြည်သူလူထုများ၏လိုလားချက်အရအများပြည်သူဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းဖြစ်ပြီး အမှန်တကယ်ဆောင်ရွက်ရန် လိုအပ်သောလုပ်ငန်းဖြစ်ပါသဖြင့် အဆိုပါလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြအပ်ပါသည်။

ညွှန်ကြားရေးမှူး
နစ-၃၃၄၃၊ မြင့်အောင်

မိတ္တူကို

ပြည်နယ်အစိုးရအဖွဲ့ရုံး၊မွန်ပြည်နယ်၊မော်လမြိုင်မြို့
ဝန်ကြီး၊စည်ပင်သာယာရေးနှင့်ဆောက်လုပ်ရေးဝန်ကြီးဌာန၊မွန်ပြည်နယ်
ရုံးလက်ခံ
မျှောစာတွဲ

ရုံးတံဆိပ်

မွန်ပြည်နယ်

ပြည် နယ် စည် ပင် သာ ယာ ရေး အ ဖွဲ့
မွန် ပြည် နယ် ( မော် လ မြိုင် မြို့ )
စာအမှတ်၊ ၂၀၈၀ / ၁ - ၁၅ / မပစ(၀၁၀)
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၂၇ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့နှင့် Myanmar Tap Water Co., Ltd တို့အကြား မွန်ပြည်နယ်၊ မော်လမြိုင်မြို့တွင်အတ္တရံမြစ်ရေကို သန့်စင်ဖြန့်ဝေခြင်းလုပ်ငန်းအား ဘီအိုတီစနစ်ဖြင့် ဆောင်ရွက်မည့်ကိစ္စနှင့်ပတ်သက်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ခွင့်ပြုချက်ရရှိရေး ဆောင်ရွက်ပေးနိုင်ပါရန်တင်ပြခြင်း

၁။ ထိုင်းနိုင်ငံအခြေစိုက်သောက်သုံးရေထုတ်လုပ်ဖြန့်ဝေရေး ကုမ္ပဏီဖြစ်သော TTW Co., Ltd ၏ လက်အောက်ခံကုမ္ပဏီတစ်ခုဖြစ်သော Tap Water Operations Co., Ltd နှင့် မြန်မာနိုင်ငံမှ Z Corporation Co., Ltd တို့ သည် မြန်မာနိုင်ငံတွင် Myanmar Tap Water Co.,Ltd (MTW) အဖြစ် ဖက်စပ်ဖွဲ့စည်းတည်ထောင်ကာ မွန်ပြည်နယ်၊ မော်လမြိုင်မြို့တွင် အတ္တရံမြစ်ရေကို သန့်စင်၍ ဖြန့်ဝေခြင်းလုပ်ငန်းကို ဘီအိုတီစနစ်ဖြင့် လုပ်ကိုင်နိုင်ရန်အတွက် ဘီအိုတီစာချုပ်တစ်ရပ်နှင့်မြေငှားစာချုပ်တစ်ရပ်တို့ကို ချုပ်ဆိုပြီး လုပ်ကိုင်ဆောင်ရွက်သွားရန် (၂၇-၄-၂၀၁၅)ရက်နေ့ (၁၅၀၀)နာရီအချိန်တွင် မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့ရုံး၊ မော်လမြိုင်မြို့၌ကျင်းပပြုလုပ်သော ညှိနှိုင်းအစည်းအဝေးတွင် ဆုံးဖြတ်ချက်ချမှတ်ခဲ့ကြပါသည်။ (အစည်းအဝေးမှတ်တမ်း - ပူးတွဲ)

၂။ အထက်ပါအစည်းအဝေးဆုံးဖြတ်ချက်အရ မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့နှင့် Myanmar Tap Water Co.,Ltd (MTW) တို့ အကြား ဘီအိုတီစာချုပ်နှင့်မြေငှားစာချုပ်တို့အား ချုပ်ဆိုခဲ့ကြပြီး မွန်ပြည်နယ်ဥပဒေချုပ်ရုံးနှင့်ပြည်ထောင်စုရှေ့နေချုပ်ရုံးတို့၏ သဘောထားမှတ်ချက်များရရှိရေးအား ဆောင်ရွက်လျက်ရှိပြီး သဘောထားမှတ်ချက်ရရှိသည့်အခါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံသို့ ဆက်လက်တင်ပြသွားမည်ဖြစ်ပါသည်။ (စာချုပ်မူကြမ်းများပူးတွဲလျက်)

၄။ သို့ဖြစ်ရာ အဆိုပါလုပ်ငန်းအား အလျင်အမြန်အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရေး အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိရေး ဆောင်ရွက်ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

ခေတ္တညွှန်ကြားရေးမှူး

နစ – ၃၃၄၃ ၊ မြင့်အောင်

မိတ္တူကို

ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မွန်ပြည်နယ်၊ မော်လမြိုင်မြို့

ဝန်ကြီး၊ စည်ပင်သာယာရေးဝန်ကြီးဌာန၊ မွန်ပြည်နယ်၊ မော်လမြိုင်မြို့

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မွန်ပြည်နယ်ဦးစီးမှူးရုံး၊ မော်လမြိုင်မြို့

Myanmar Tap Water Co., Ltd

ရုံးလက်ခံ

မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်နယ်အစိုးရအဖွဲ့

မွန်ပြည်နယ်

စာအမှတ်၊ ၃၀၀ / ၁ - ၆၉ / ဝခရ (မွန်)

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ၊ စက်တင်ဘာလ ၂၃ ရက်

သို့

ဥက္ကဋ္ဌ
ပြည်နယ်လွှတ်တော်
မွန်ပြည်နယ်

အကြောင်းအရာ။ **မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့ နှင့် Myanmar Tap Water Co., Ltd. တို့မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အတ္တရံမြစ်မှ မြစ်ရေကို သန့်စင်၍ ဖြန့်ဝေခြင်းလုပ်ငန်းကို BOT စနစ်ဖြင့်ဆောင်ရွက်မှုအစီရင်ခံစာ ပေးပို့ခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး၏ (၁၈-၈-၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက-၅(အ)/ ၀၀၈ / ၂၀၁၅ (၂၅၂)

၁။ ထိုင်းနိုင်ငံ Thai Water Operations Co., Ltd. မှ ၇၀%နှင့် မြန်မာနိုင်ငံ Z Corporation Co., Ltd. မှ ၃၀%ဖြင့် မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Tap Water Co., Ltd. တည်ထောင်၍ မွန်ပြည်နယ်၊ မော်လမြိုင်မြို့တွင် အတ္တရံမြစ်မှ မြစ်ရေကို သန့်စင်၍ ဖြန့်ဝေခြင်းလုပ်ငန်းကို မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့နှင့် BOT စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့ မှ အဆိုပြုလွှာတင်ပြထားပြီးဖြစ်ပါသည်။

၂။ မော်လမြိုင်မြို့တွင် အတ္တရံမြစ်ရေကို သန့်စင်၍ ဖြန့်ဝေခြင်းလုပ်ငန်းကို BOT ဖြင့် လုပ်ကိုင်နိုင်ရန် အတွက် BOT စာချုပ်တစ်ရပ် နှင့် မြေငှားစာချုပ်တစ်ရပ် ချုပ်ဆိုနိုင်ရန် မွန်ပြည်နယ်ဥပဒေချုပ်ရုံးသို့ ပေးပို့ခဲ့ရာ၊ ထိုမှတဆင့် ပြည်ထောင်စုရှေ့နေချုပ်ရုံး ၊ နေပြည်တော် သို့ (၂၈-၈-၂၀၁၅) ရက်နေ့တွင် ပေးပို့၍ သဘောထားမှတ်ချက် တောင်းခံထားပြီးဖြစ်ပါသည်။

၃။ သို့ပါ၍ ထိုင်းနိုင်ငံ Thai Water Operations Co., Ltd. မှ ၇၀%နှင့် မြန်မာနိုင်ငံ Z Corporation Co., Ltd. မှ ၃၀%ဖြင့် မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Tap Water Co., Ltd. တည်ထောင်၍ မွန်ပြည်နယ်၊ မော်လမြိုင်မြို့တွင် အတ္တရံမြစ်မှ မြစ်ရေကို သန့်စင်၍ ဖြန့်ဝေခြင်း လုပ်ငန်းကို မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့နှင့် BOT စနစ်ဖြင့် ဆောင်ရွက်မည့် အစီရင်ခံစာအား လွှတ်တော် မှ မှတ်တမ်းတင်အတည်ပြုနိုင်ပါရန် ပေးပို့အပ်ပါသည်။

ပူးတွဲ။ မော်လမြိုင်မြို့ကွင်း အတ္တရံမြစ်မှ မြစ်ရေကို သန့်စင်၍ ဖြန့်ဝေခြင်းလုပ်ငန်းအစီအစဉ် တင်ပြချက် (၁) စုံ

(၂၆-၁၂-၂၀၁၄) ရက်နေ့ကျင်းပပြုလုပ်သည့် အစည်းအဝေးမှတ်တမ်း (၁) စုံ

(၂၃-၁ -၂၀၁၅) ရက်နေ့ကျင်းပပြုလုပ်သည့် အစည်းအဝေးမှတ်တမ်း (၁) စုံ

(၂၇-၄-၂၀၁၅) ရက်နေ့ကျင်းပပြုလုပ်သည့် အစည်းအဝေးမှတ်တမ်း (၁) စုံ

(၂၁-၈-၂၀၁၅) ရက်နေ့ကျင်းပပြုလုပ်သည့် အစည်းအဝေးမှတ်တမ်း (၁) စုံ

ဝန်ကြီးချုပ် (ကိုယ်စား)

( ဇော်လင်းထွန်း ၊ အတွင်းရေးမှူး )

မိတ္တူကို

ဝန်ကြီး ၊ စည်ပင်သာယာရေးဝန်ကြီးဌာန ၊ မွန်ပြည်နယ်

ညွှန်ကြားရေးမှူး ၊ ပြည်နယ်စည်ပင်သာယာရေးအဖွဲ့ ၊ မွန်ပြည်နယ်

အုပ်ချုပ်ရေးမှူး ၊ ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန ၊ မော်လမြိုင်မြို့

အုပ်ချုပ်ရေးမှူး ၊ မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန ၊ မော်လမြိုင်မြို့

ရုံးလက်ခံစာတွဲ

မျှောစာတွဲ

500-Mar-2 130

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်နယ်အစိုးရအဖွဲ့

မွန်ပြည်နယ်

စာအမှတ်၊ ၃၀၀ / ၁ - ၆၉ / ၀ခရ (မွန်)

ရက်စွဲ၊ ၂၀၁၅ခုနှစ် ၊ စက်တင်ဘာလ ၂၄ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁) ၊ သစ္စာလမ်း ၊ ရန်ကင်းမြို့နယ် ၊ ရန်ကုန်မြို့

အကြောင်းအရာ။ **မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့ နှင့် Myanmar Tap Water Co., Ltd. တို့မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အတ္တရံမြစ်မှ မြစ်ရေကို သန့်စင်၍ ဖြန့်ဝေခြင်းလုပ်ငန်းကို BOT စနစ်ဖြင့်ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး၏ (၁၈-၈-၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက-၅(အ)/ ၀၀၈ / ၂၀၁၅ (၂၅၂)

၁။ ထိုင်းနိုင်ငံ Thai Water Operations Co., Ltd. မှ ၇၀%နှင့် မြန်မာနိုင်ငံ Z Corporation Co., Ltd. မှ ၃၀%ဖြင့် မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Tap Water Co., Ltd. တည်ထောင်၍ မွန်ပြည်နယ်၊ မော်လမြိုင်မြို့တွင် အတ္တရံမြစ်မှ မြစ်ရေကို သန့်စင်၍ ဖြန့်ဝေခြင်းလုပ်ငန်းကို မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့နှင့် BOT စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့ မှ အဆိုပြုလွှာတင်ပြထားပြီးဖြစ်ပါသည်။

၂။ မော်လမြိုင်မြို့တွင် အတ္တရံမြစ်ရေကို သန့်စင်၍ ဖြန့်ဝေခြင်းလုပ်ငန်းကို BOT ဖြင့် လုပ်ကိုင်နိုင်ရန် အတွက် BOT စာချုပ်တစ်ရပ် နှင့် မြေငှားစာချုပ်တစ်ရပ် ချုပ်ဆိုနိုင်ရန် မွန်ပြည်နယ်ဥပဒေချုပ်ရုံးသို့ ပေးပို့ခဲ့ပြီး ပြည်နယ်ဥပဒေချုပ်ရုံးမှလည်း ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ (၂၈-၈-၂၀၁၅) ရက်နေ့တွင် ပေးပို့၍ သဘောထား မှတ်ချက်တောင်းခံထားပြီးဖြစ်ပါသည်။

၃။ အဆိုပါ လုပ်ငန်းဆောင်ရွက်ခွင့်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ စဉ်းစားရာတွင် အဆိုပြုလုပ်ငန်းသည် အများပြည်သူဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်း (Public Utility Goods and Services) ဖြစ်သည့်အတွက် မွန်ပြည်နယ်လွှတ်တော်သို့ တင်ပြအတည်ပြုချက်ရယူသင့်ကြောင်း နှင့် ပြည်နယ်အစိုးရမှ တစ်ဆင့် အဆိုပြုလွှာပြန်လည်တင်ပြနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် မွန်ပြည်နယ်အစိုးရအဖွဲ့ရုံးသို့ မိတ္တူပေးပို့ လာပါသည်။

၄။ ထိုင်းနိုင်ငံ Thai Water Operations Co., Ltd. မှ ၇၀%နှင့် မြန်မာနိုင်ငံ Z Corporation Co., Ltd. မှ ၃၀%ဖြင့် မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Tap Water Co., Ltd. ကုမ္ပဏီ၏ မွန်ပြည်နယ်၊ မော်လမြိုင်မြို့တွင် အတ္တရံမြစ်မှ မြစ်ရေကို သန့်စင်၍ ဖြန့်ဝေခြင်း လုပ်ငန်းကို မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့နှင့် BOT စနစ်ဖြင့် ဆောင်ရွက်မည့် အစီရင်ခံစာအား ပြည်နယ်လွှတ်တော် မှ မှတ်တမ်းတင်အတည်ပြုနိုင်စေရန်အတွက် မွန်ပြည်နယ်အစိုးရအဖွဲ့ မှ (၂၃-၉-၂၀၁၅) ရက်နေ့တွင် မွန်ပြည်နယ်လွှတ်တော် သို့ ပေးပို့တင်ပြထားပြီးဖြစ်ပါသည်။ (ပူးတွဲလျှက်)

၅။ သို့ပါ၍ မွန်ပြည်နယ်အစိုးရအဖွဲ့ မှ လုပ်ငန်းဆောင်ရွက်မှု နှင့် ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှ (၁၅-၉-၂၀၁၅)ရက်စွဲပါ စာအမှတ်၊ ရက -၅ (အ) / ၀၀၈ / ၂၀၁၅ (၂၉၄)ဖြင့် **သဘောထားတောင်းခံခဲ့ခြင်းအပေါ်** မွန်ပြည်နယ်အစိုးရအဖွဲ့ မှ သဘောထားပြန်ကြားဆောင်ရွက်မည်ဖြစ်ပါကြောင်း ဆောင်ရွက်ထားရှိမှုအခြေအနေများအား သိရှိနိုင်ပါရန် ပေးပို့ပြန်ကြားအပ်ပါသည်။

**ပူးတွဲ။** မွန်ပြည်နယ်အစိုးရအဖွဲ့မှ ပြည်နယ်လွှတ်တော်သို့ ပေးပို့တင်ပြထားသည့်တင်ပြစာ (၂) ရွက်

ဝန်ကြီးချုပ် (ကိုယ်စား)
( ဇော်လင်းထွန်း ၊ အတွင်းရေးမှူး )

မိတ္တူကို

ဝန်ကြီး ၊ စည်ပင်သာယာရေးဝန်ကြီးဌာန ၊ မွန်ပြည်နယ်

ရုံးလက်ခံစာတွဲ

မျှောစာတွဲ

500-Mar-2 132

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်နယ်အစိုးရအဖွဲ့

မွန်ပြည်နယ်

စာအမှတ် ၊ ၃၀၀ / ၁ - ၆၉/ ၀ခရ (မွန်)

ရက်စွဲ ၊၂၀၁၅ ခုနှစ် ၊ အောက်တိုဘာလ ၃ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တင်ပြခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့၏ (၁၅-၉-၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက-၅ (အ) / ၀၀၈ / ၂၀၁၅ (၂၉၄)

၁။ ထိုင်းနိုင်ငံ Thai Water Operations Co., Ltd. မှ ၇၀% နှင့် မြန်မာနိုင်ငံ Z Corporation Co., Ltd. မှ ၃၀%ဖြင့် မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Tap Water Co., Ltd. တည်ထောင်၍ မွန်ပြည်နယ်၊ မော်လမြိုင်မြို့တွင် အတ္ထရံမြစ်မှ မြစ်ရေကို သန့်စင်၍ ဖြန့်ဝေခြင်းလုပ်ငန်းကို မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့နှင့် BOT စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့ မှ အဆိုပြုလွှာတင်ပြခဲ့ပြီး ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ အခန်း(၆) ၊ အပိုဒ် (၄၃)ပါ ပြဋ္ဌာန်းချက် နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် မှ စဉ်းစားရာတွင် သက်ဆိုင်ရာ ပြည်နယ်/တိုင်းဒေသကြီးအစိုးရ၏ သဘောထားကို ရယူရန်လိုအပ်ကြောင်း ၊ သက်ဆိုင်ရာဝန်ကြီးချုပ်ကိုယ်တိုင်စိစစ်ထောက်ခံပေးနိုင်ပါရန် အောက်ပါသဘောထားမှတ်ချက်နှင့်အတူ ရက်သတ္တပတ် တစ်ပတ်အတွင်းပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းပေးပို့လာမှုအရ အဖွဲ့ဖြင့်စိစစ်ခဲ့ရာ အောက်ပါအတိုင်းတွေ့ရှိရပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုမည့်နေရာသည်နောင်ပြုလုပ်မည့်(သို့မဟုတ်)လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်ခြင်း **(မရှိပါ)** ။

(ခ) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့်ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ **(ဖြစ်ပါသည်)** ။

(ဂ) ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်း သုံးစွဲခြင်း အပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း **(ရှိပါသည်)** ။

Thaung Nu (II) 13

(ဃ) လုပ်ငန်းဆောင်ရွက်မည့် မြေနေရာ ( **မှန်ကန်ပါသည်** ) ။

( င) ပြည်နယ်အစိုးရအဖွဲ့၏ အကြံပြုချက်အနေဖြင့် (**စီမံချက်ပါကာလအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါ**) ။

၂။ သို့ဖြစ်ပါ၍ ထိုင်းနိုင်ငံ Thai Water Operations Co., Ltd. မှ ၇၀% နှင့် မြန်မာနိုင်ငံ Z Corporation Co., Ltd. မှ ၃၀%ဖြင့် မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Tap Water Co., Ltd. တည်ထောင်၍ မွန်ပြည်နယ် ၊ မော်လမြိုင်မြို့တွင် အတ္တရံမြစ် မှ မြစ်ရေကို သန့်စင်၍ ဖြန့်ဝေခြင်းလုပ်ငန်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားခြင်းနှင့် ပတ်သက်၍ နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်မှုမရှိခြင်း ၊ ပြည်သူတို့၏ လူမှုစီပွားရေးကို ထိခိုက်နိုင်မှုမရှိခြင်း ၊ မြို့နယ်ဒေသခံပြည်သူများအတွက် အလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူဖြစ်ခြင်း ၊ ဒေသခံများ သို့ အတ္တရံမြစ်ရေပေးဝေခြင်း လုပ်ငန်းကို အဆင့်မြှင့်တင်၍ **စက်အသစ်များအသုံးပြုပြီး သန့်ရှင်းသော သောက်သုံးရေရရှိအောင် ဆောင်ရွက်မည့် လုပ်ငန်းတစ်ခုဖြစ်သည့်အတွက်** ဒေသခံများ၏ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ ကုမ္ပဏီ မှ ( EIA , SIA )ဆောင်ရွက်လျှက်ရှိပြီး ၊ Myanmar Tap Water Co., Ltd. မှ အဆင့်မြှင့်တင်ပြီး ရေပေးဝေခြင်းလုပ်ငန်းသည် လက်ခံနိုင်သည့် အလွန်ကောင်းမွန်သောလုပ်ငန်း (၁)ခု ဖြစ်သည့်အတွက် ( ၁-၁၀-၂၀၁၅ )ရက်နေ့ **မွန်ပြည်နယ်အစိုးရအဖွဲ့လုပ်ငန်းညှိနှိုင်းစိစစ်အကောင်အထည်ဖော်ရေးအစည်းအဝေး ဆုံးဖြတ်ချက်အရ ပြည်နယ်အစိုးရအဖွဲ့အနေဖြင့်စီမံချက်ပါအတိုင်းဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထား** ပြန်ကြားပါသည်။

ဦးအုန်းမြင့်
ပြည်နယ်ဝန်ကြီးချုပ်

မိတ္တူကို

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး ၊ နေပြည်တော်
ပြည်ထောင်စုဝန်ကြီးရုံး ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၊နေပြည်တော်
ပြည်ထောင်စုဝန်ကြီးရုံး ၊ လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန၊နေပြည်တော်
Myanmar Tap Water Co., Ltd.
ရုံးလက်ခံစာတွဲ / မျှောစာတွဲ

Thaung Nu (II)
5

ပြည် နယ် လွှတ် တော် ရုံး

မွန် ပြည် နယ် ၊ မော် လ မြိုင် မြို့

စာအမှတ် ၊ ၁၀၀/ လွှတ်တော်( တင်ပြစာ)/၀၀၇( ၇၃၁ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ၊ အောက်တိုဘာလ ၆ ရက်

သို့

ဝန်ကြီးချုပ်

ပြည်နယ်အစိုးရအဖွဲ့

မွန်ပြည်နယ်၊မော်လမြိုင်မြို့

အကြောင်းအရာ။ မော်လမြိုင်မြို့ရေပေးရေးလုပ်ငန်းနှင့်ပတ်သက်ပြီးဖက်စပ်ရင်းနှီးမြှုပ်နှံမှုစနစ်ဖြင့် Myanmar Top Water Co.Ltd နှင့် ဆောင်ရွက်မည့်လုပ်ငန်းအစီအစဉ်

ရည် ညွှန်း ချက် ။ မွန်ပြည်နယ်အစိုးရအဖွဲ့၏ ၂၃.၉.၂၀၁၅ ရက်စွဲပါစာအမှတ်၊၃၀၀/၁-၆၉/၀ခရ (မွန်)

၁။ ရည်ညွှန်းပါစာဖြင့် ပေးပို့လာသော မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့နှင့် Myanmar Top Water Co.Ltd တို့မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အထွေရံမြစ်ရေကို သန့်စင်၍ ဖြန့်ဝေခြင်းလုပ်ငန်းအား BOT စနစ်ဖြင့် အကောင်အထည်ဖော်မည့် အစီအစဉ်ကို ၄.၅.၂၀၁၅ ရက်နေ့တွင် ကျင်းပသော ပြည်နယ်လွှတ်တော်ရေးရာကော်မတီများ ပူးပေါင်းညှိနှိုင်းအစည်းအဝေးတွင် ဆွေးနွေးကြပါသည်။

၂။ မွန်ပြည်နယ်စည်ပင်သာယာရေးဥပဒေပုဒ်မ ၁၄(ခ)တွင် မြို့ရေပေးရေးလုပ်ငန်းကို စည်ပင်သာယာရေးအဖွဲ့မှ ဆောင်ရွက်ရန် ပြဋ္ဌာန်းပါရှိသောကြောင့် ယင်းဥပဒေပြဋ္ဌာန်းချက်နှင့်ညီညွတ်ရေး စိစစ်ဆောင်ရွက်ရမည် ဖြစ်ပါသည်။ ဖော်ပြပါလုပ်ငန်းအစီအစဉ်မှာ မြို့လူထုကျန်းမာရေး၊ သောက်သုံးရေ လုံလောက်ရေးသည် အရေးပါသော လုပ်ငန်းဖြစ်သည့်အတွက် ဆောင်ရွက်ရန် သဘောတူကြောင်းကိုမြို့နယ်စည်ပင်သာယာရေးကော်မတီ၊ ပြည်နယ်စည်ပင်သာယာရေးကော်မတီ၊ ပြည်နယ်အစိုးရအဖွဲ့တို့၏ ဆုံးဖြတ်ချက်များ ပါရှိရန် လိုအပ်ပြီး မြို့လူထုနှင့်တွေ့ဆုံပွဲမှတ်တမ်းများကိုလည်း ထားရှိရန် လိုအပ်ပါမည်။ သို့မှသာ ပြည်နယ်အစိုးရအဖွဲ့မှ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်ရန် ၇.၅.၂၀၁၅ ရက်စွဲပါစာအမှတ်၊၂၀၀/၃-၃/၀ခရ(မွန်)ဖြင့် အကြောင်းကြားထားခြင်းနှင့် ကိုက်ညီမည်ဖြစ်ပြီး ပြည်ထောင်စုအဆင့်သို့ တင်ပြဆောင်ရွက်မှုလည်း အကျုံးဝင်မည် ဖြစ်ပါသည်။

၃။ ဖွဲ့စည်းပုံအခြေခံဥပဒေ ဇယား(၂)တွင် စည်ပင်သာယာရေးဆိုင်ရာ အခွန်အခများ ဥပဒေပြဋ္ဌာန်းရာတွင် "**ရေခွန်**" ပါဝင်နေပါသည်။ ယင်းရေခွန်မှာ သီးခြားဖြစ်သည်။ ယခုရေပေးရေးစီမံကိန်းအရ **ရေခ** ပေးရသည်မှာ သီးခြားဖြစ်သည်ကို မြို့လူထုရှင်းလင်းအောင် ဆောင်ရွက်ထားသင့်ပါသည်။ "**ရေခွန်**" ဥပဒေပြဋ္ဌာန်းခြင်းနှင့် ယခုစီမံကိန်းအရ ရေခဆိုသည်ကို ချိတ်ဆက်ပြီး သို့မဟုတ် သီးခြားစီဖြစ်၍ ချိတ်ဆက်ရန် မလိုခြင်းကို ကွဲကွဲပြားပြားဖြစ်ထားသင့်ပါသည်။

၄။ ဆွေးနွေးချက်အရ ရေခ ထဲမှ တစ်ယူနစ်လျှင် စည်ပင်သာယာရေးအဖွဲ့သို့ (၅)ကျပ် ပေးသွင်းရမည့်ကိစ္စမှာ အထွက်မြစ်ရေကို ရယူအသုံးပြုခြင်းအတွက် နိုင်ငံတော်သို့ အခွန်ပေးဆောင်ရခြင်းဖြစ်ပြီး နိုင်ငံတော်ကိုယ်စား စည်ပင်သာယာရေးအဖွဲ့ ဝင်ငွေအဖြစ် ဆောင်ရွက်ခြင်းဖြစ်သင့်ကြောင်း၊ သို့မှသာ နိုင်ငံခြားကုမ္ပဏီသို့ ရေအရင်းအမြစ်အား အခမဲ့ အသုံးပြုစေခြင်းဆိုသည့်အစား ကုမ္ပဏီက ရေအတွက် အခွန်ပေးဆောင်ရခြင်းဖြင့် နိုင်ငံတော်ပိုင် ဖြစ်သည်ကို ရယူထားသင့်ပါသည်။

၅။ ဆွေးနွေးချက်အရ ရေကိုရယူ စီမံခန့်ခွဲပြီး လူထုထံ ကုမ္ပဏီမှ ဖြန့်ဖြူးခြင်းနှင့်ပတ်သက်၍ လူထု နှင့် ကုမ္ပဏီအကြား ညှိနှိုင်းဆောင်ရွက်ရန် အကြောင်းကိစ္စများ ပေါ်ပေါက်လာပါက ကိစ္စအကြီးအသေးအလိုက် ညှိနှိုင်းပေါင်းစပ်ဆောင်ရွက်ခြင်း၊ ရေပေးရေးလုပ်ငန်းအား ကြီးကြပ် ထိန်းညှိခြင်း တာဝန်ကို မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးကော်မတီသို့ တာဝန်ပေးသင့်ပါသည်။

၆။ အသေးစိတ်လုပ်ငန်းအစီအစဉ်၊ သဘောတူစာချုပ်တို့ကို ပြည်နယ်အစိုးရအဖွဲ့၊ ပြည်နယ်စည်ပင်သာယာရေးကော်မတီ၊ မြို့နယ်စည်ပင်သာယာရေးကော်မတီတို့၏ အတည်ပြုချက်ဖြင့် ဆောင်ရွက်သင့်ပါသည်။ ၎င်းအပြင် ရေဖြန့်ဝေ သုံးစွဲခြင်းဆိုင်ရာ စည်းမျဉ်း(စည်းကမ်း)ကို အတည်ပြု ဆောင်ရွက်ပေးထားခြင်းဖြင့် ကိစ္စကြီးငယ်၊ တစ်စုံတစ်ရာ ပေါ်ပေါက်လာလျှင် ယင်းစည်းမျဉ်း၊ စည်းကမ်းနှင့်အညီ အရေးယူဆောင်ရွက်သွားရမည် ဖြစ်ပါသည်။

၇။ လက်ရှိ မြို့ရေပေးစနစ်မှ ရေ အရည်အသွေးကောင်းမွန်သော၊ ရေအလုံအလောက်ရရှိသော ရေပေးစနစ်ကို ပြောင်းလဲဆောင်ရွက်ရမည်မှာ မလွဲမသွေဖြစ်ပါသည်။ လုပ်ငန်းရင်းနှီးမြှုပ်နှံမှု ဒေါ်လာ(၁၂)သန်းထိ ရှိခြင်း၊ ကျွမ်းကျင်မှု နည်းပညာများလိုအပ်ခြင်း၊ ရေပေးရေးကို တိုးချဲ့ဆောင်ရွက်ရမည့်အခြေအနေဖြစ်ခြင်း၊ သောက်သုံးနိုင်သည့်အဆင့်ရှိသော ရေအရည်အသွေးကောင်းမွန်သည့် ရေရရှိနိုင်ခြင်း စသည့်အခြေအနေများမှာ စည်ပင်သာယာရေးအဖွဲ့အနေဖြင့် ဆောင်ရွက်နိုင်သည့်အခြေအနေမရှိသောကြောင့် ယခုကဲ့သို့ BOT စနစ်ဖြင့် ဆောင်ရွက်ရန် စိစစ်ဆောင်ရွက်ခြင်းကို သဘောတူပါသည်။

၈။ ဆောင်ရွက်ရာတွင် အထက်အပိုဒ် (၂)(၃)(၄)(၅)(၆)ပါ အချက်များကို လိုအပ်သလို ဖြည့်စွက်ဆောင်ရွက်သင့်ကြောင်း၊ ယခုဆွေးနွေးဆုံးဖြတ် ပြန်ကြားခြင်းကို အနီးကပ်ဆုံးကျင်းပမည့်

ပြည်နယ်လွှတ်တော်အစည်းအဝေးသို့ တင်ပြခြင်း ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း အကြောင်း ပြန်ကြားအပ်ပါသည်။

( ကျင်ဖေ )

ဥက္ကဋ္ဌ

မိတ္တူကို

ဝန်ကြီး၊ပြည်နယ်စည်ပင်သာယာရေးဝန်ကြီးဌာန၊မွန်ပြည်နယ်၊မော်လမြိုင်မြို့

ဥက္ကဋ္ဌ၊ပြည်နယ်စည်ပင်သာယာရေးကော်မတီ၊ မွန်ပြည်နယ်၊မော်လမြိုင်မြို့

ညွှန်ကြားရေးမှူး၊ ပြည်နယ်စည်ပင်သာယာရေးအဖွဲ့၊မွန်ပြည်နယ်၊မော်လမြိုင်မြို့

ဥက္ကဋ္ဌ၊မြို့နယ်စည်ပင်သာယာရေးကော်မတီ၊မွန်ပြည်နယ်၊မော်လမြိုင်မြို့

ရုံးလက်ခံ

မျှောစာတွဲ။

Myanmar Investment Commission

☎ ၉၅-၁-၆၅၈၁၃၄
🖷 ၉၅-၁-၆၅၈၁၄၂

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊ ရက-၅(အ) / ၀၀၈ / ၂၀၁၅ ( ၃၃၇ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၈ ရက်

အကြောင်းအရာ။ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန်ကိစ္စ**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၅-၉-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၅(အ)/၀၀၈/၂၀၁၅ (၂၉၅)

(၂) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏၃၀-၉-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၃(၂)/၁၆(ဃ)(၆)/(၂၆၃၉/၂၀၁၅)

၁။ ထိုင်းနိုင်ငံ Thai Water Operations Co., Ltd. မှ ၇၀ % နှင့်မြန်မာနိုင်ငံ Z Corporation Co., Ltd. မှ ၃၀ % ဖြင့် မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Tap Water Co., Ltd. တည်ထောင်၍ မွန်ပြည်နယ်၊ မော်လမြိုင်မြို့တွင် အတ္တရံမြစ်မှ မြစ်ရေကို သန့်စင်၍ဖြန့်ဝေခြင်းလုပ်ငန်းကို မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့နှင့် BOT စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းအား ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ ရည်ညွှန်းချက်(၁)ပါစာဖြင့် သဘောထားမှတ်ချက် တောင်းခံခဲ့ရာ ရည်ညွှန်းချက်(၂) ပါစာဖြင့် အောက်ပါအတိုင်းဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်-

(က) အတ္တရံမြစ်မှ မြစ်ရေကို သန့်စင်၍ ဖြန့်ဝေခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် မြစ်အတွင်းမှ ထုတ်ယူနိုင်မည့် ပမာဏထက် ပိုမိုထုတ်ယူမှုမရှိစေရေး၊ မြစ်ကြောင်းပြောင်းလဲမှုနှင့် မြစ်အောက်ပိုင်းဒေသများ ရေရရှိမှုအခက်အခဲမရှိစေရေးနှင့် မြစ်ရေရယူမည့်နေရာ အထက်ပိုင်းရှိ ရေထုညစ်ညမ်းစေသည့် လုပ်ငန်းများ ဆောင်ရွက်မှု ရှိ/မရှိ ဆန်းစစ်၍ ပတ်ဝန်းကျင် နှင့် လူထုကျန်းမာရေး ထိခိုက်မှုမရှိစေရန် စီမံချက်များ၊ အစီအမံများ ထည့်သွင်းဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက်ရေးဆွဲခြင်း၊ လုပ်ငန်းအဆင့်ဆင့်တို့အတွက် ဆောင်ရွက်မည့် လုပ်ငန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များနှင့် စက်ကိရိယာများ အသုံးပြုခြင်း၊ အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) အတွက် နှစ်စဉ်အသားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှု နှင့် လူမှုရေးထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် စောင့်ကြပ်ကြည့်ရှု စစ်ဆေးသည့်စနစ်၊ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းလမ်းများ၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သော ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(င) သက်ဆိုင်ရာ တိုင်း/ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်၊

၂။ သို့ဖြစ်ပါ၍ အထက်အပိုဒ် (၁) ပါ အချက်များအား သိရှိနိုင်ပါရန် နှင့် Myanmar Tap Water Co., Ltd. အနေဖြင့် လိုက်နာဆောင်ရွက်မည့် အစီအစဉ်များအား ကော်မရှင်သို့ ပြန်လည်တင်ပြပေးရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

Myanmar Tap Water Co., Ltd.

မိတ္တူကို

မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး

မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့ရုံး

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ရုံးလက်ခံ/မျှောစာတွဲ

# Myanmar Tap Water Co., Ltd.

## STATEMENT OF COMPLIANCE

14th October 2015

The Chairman
Myanmar Investment Commission
Office No. 1, Thit Sar Road, Yankin Township
Republic of the Union of Myanmar

Subject: Compliance with the comments of the Ministry of Environmental Conservation and Forestry

Reference: Letter No. YAKA-5(Ah)/008/2015(337), dated 8th October 2015 of Myanmar Investment Commission

We, the undersigned, directors of the companies which are the proposed shareholders of the proposed company, Myanmar Tap Water Co., Ltd. ("Company"), hereby confirm that:

1. the Company has already engaged National Engineering and Planning Services Company Limited to conduct the Environmental & Social Impact Assessment for the project; and

2. the Company will comply with the provisions of the Myanmar environmental law and rules and any re-enactment thereof, in so far as any of them is applicable to the Company.

| | |
|---|---|
| Chaiwat Utaiwan | Zay Thiha |
| Name: Mr. Chaiwat Utaiwan | Name: U Zay Thiha |
| Title: Director | Title: Chairman |
| For and on behalf of | For and on behalf of |
| Thai Water Operations Co., Ltd. | Z Corporation Company Limited |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
Myanmar Investment Commission
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၉၅-၁-၆၅၈၁၃၀
🖷 ၉၅-၁-၆၅၈၁၄၂


စာအမှတ်၊ ရက-၅(အ)/ ၀၀၈ / ၂၀၁၅( ၃၃၅ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် အောက်တိုဘာ လ ၈ ရက်

အကြောင်းအရာ။ **ပို့ဆောင်ရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်ရန်ကိစ္စ**

ရည်ညွှန်းချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၅-၉-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၅(အ)/၀၀၈/၂၀၁၅(၂၉၆)

(၂) ပို့ဆောင်ရေးဝန်ကြီးဌာန၏ ၂၈-၉-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၆၂ - ပဆ / ခွဲ (၁) (ည) (၉/၃၈၂)

၁။ ထိုင်းနိုင်ငံ Thai Water Operations Co., Ltd. မှ ၇၀ % နှင့် မြန်မာနိုင်ငံ Z Corporation Co., Ltd. မှ ၃၀ % ဖြင့် မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Tap Water Co., Ltd. တည်ထောင်၍ မွန်ပြည်နယ်၊ မော်လမြိုင်မြို့တွင် အတ္တရံမြစ်မှ မြစ်ရေကိုသန့်စင်၍ ဖြန့်ဝေခြင်းလုပ်ငန်းကို မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့နှင့် BOT စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းအပေါ် ပို့ဆောင်ရေးဝန်ကြီးဌာနသို့ ရည်ညွှန်းချက် (၁)ပါ စာဖြင့် သဘောထားမှတ်ချက်တောင်းခံခဲ့ပါသည်။

၂။ ပို့ဆောင်ရေးဝန်ကြီးဌာနမှ လုပ်ငန်းများဆောင်ရွက်ရာ၌ အသုံးပြုမည့် ရေစစ်ကန်၊ ရေလှောင်ကန်များသည် ကမ်းနားနယ် (၁၅၀) ပေ အတွင်း တည်ဆောက်ခြင်း မပြုရန်၊ မဖြစ်မနေ ဆောင်ရွက်ရန်လိုအပ်ပါက ရေအရင်းအမြစ် နှင့် မြစ်ချောင်းများ ဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန၏ ခွင့်ပြုချက်ရယူဆောင်ရွက်သွားရန် နှင့် ရေအရင်းအမြစ်နှင့် မြစ်ချောင်းများထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေများ၊ နိုင်ငံတော်မှပြဌာန်းမည့် ရေဥပဒေများကိုလည်း လိုက်နာဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ပါကြောင်း ရည်ညွှန်းချက်(၂) ပါစာဖြင့် ပြန်ကြားလာပါသည်။

၃။ သို့ဖြစ်ပါ၍ အထက်အပိုဒ် (၂)ပါ အချက်များအား သိရှိနိုင်ပါရန် နှင့် Myanmar Tap Water Co., Ltd. အနေဖြင့် လိုက်နာဆောင်ရွက်မည့် အစီအစဉ်များအား ကော်မရှင်သို့ ပြန်လည် တင်ပြပေးရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

Myanmar Tap Water Co., Ltd.

မိတ္တူကို

မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး

မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့

ပြည်ထောင်စုဝန်ကြီးရုံး
ပို့ဆောင်ရေးဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
ရေအရင်းအမြစ်နှင့်မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန

ရုံးလက်ခံ/မျှောစာတွဲ

**Myanmar Tap Water Co., Ltd.**

---

**STATEMENT OF COMPLIANCE**

14th October 2015

The Chairman
Myanmar Investment Commission
Office No. 1, Thit Sar Road, Yankin Township
Republic of the Union of Myanmar

Subject: Compliance with the comments of the Ministry of Transport

Reference: Letter No. YAKA-5 (AH)/008/2015 (338), dated 8th October 2015 of Myanmar Investment Commission

We, the undersigned, directors of the companies which are the proposed shareholders of the proposed company, Myanmar Tap Water Co., Ltd. ("Company"), hereby confirm that:

1. if the Company requires to build the filter tank and the storage tank for using for the project in the area within 150 feet from river bank, the Company will obtain the approval from the Directorate of Water Resource and Rivers Development; and

2. the Company will comply with the provisions of the Myanmar water resource and river conservation law and rules and any re-enactment thereof, in so far as any of them is applicable to the Company.

Chaiwat Utaiwan

Name: Mr. Chaiwat Utaiwan
Title: Director
For and on behalf of
Thai Water Operations Co., Ltd.

Zay Thiha

Name: U Zay Thiha
Title: Chairman
For and on behalf of
Z Corporation Company Limited

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်

စာအမှတ်၊ ၂(၅) ၄ - ၂၂ /နပတ(၁၀၄၄)

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၂၆ ရက်

အကြောင်းအရာ။ မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့နှင့် Myanmar Tap Water Co, Ltd တို့ မှ မော်လမြိုင်မြို့တွင် အထွေထွေရုံမြစ်ရေကို သန့်စင်ဖြန့်ဝေခြင်းလုပ်ငန်းအား B.O.T စနစ်ဖြင့် ဆောင်ရွက်မည့်စာချုပ်(မူကြမ်း)နှင့် မြေငှားစာချုပ်(မူကြမ်း)များ အပေါ် သဘောထားမှတ်ချက်ပေးရန်ကိစ္စ

ရည် ညွှန်း ချက် ။

(၁) မွန်ပြည်နယ်ဥပဒေချုပ်ရုံး၏ ၂၈-၈-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၁၀(၄)/ ၆/ ၂/ ဥခရ(မွန်) (၁၁၇၄)

(၂) မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၏ ၂၇-၈-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၃၀၀/ ၁-၉၆/ ၂/ ဝခရ(မွန်)

(၃) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၂၂-၉-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၂(၅) ၄-၂၂ / နပတ ( ၉၆၀ )

(၄) မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့၏ ၇-၁၀-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၃၀၈၅/ ဂ-စ / မပစ/ (ပ၂ဝ )

၁။ မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့(MSDA)နှင့် Myanmar Tap Water Co, Ltd တို့ မော်လမြိုင်မြို့တွင် အထွေထွေရုံမြစ်ရေကိုသန့်စင်၍ ရေဖြန့်ဝေခြင်းလုပ်ငန်းအား B.O.T စနစ်ဖြင့် လုပ်ကိုင်ရန်အတွက် ချုပ်ဆိုမည့် B.O.T စာချုပ်(မူကြမ်း) နှင့် မြေငှားရမ်းစာချုပ်(မူကြမ်း) တို့အပေါ်

လို့ဝက်

သဘောထားမှတ်ချက်ပေးပါရန် မွန်ပြည်နယ်ဥပဒေချုပ်ရုံးမှ ရည်ညွှန်းချက်(၁)ပါစာဖြင့် မေတ္တာရပ်ခံလာသော ကိစ္စဖြစ်ပါသည်။

၂။ မွန်ပြည်နယ်အစိုးရအဖွဲ့ကစာချုပ်(မူကြမ်း)အပေါ်အကြံပြုချက်ပေးပါရန်မွန်ပြည်နယ်ဥပဒေချုပ်ရုံးသို့ ရည်ညွှန်းချက်(၂)ပါစာဖြင့်ပေးပို့ခဲ့၍ ပြည်တွင်းပြည်ပရင်းနှီးမြှုပ်နှံမှုဆိုင်ရာ စာချုပ်စာတမ်းဖြစ်သောကြောင့် ပြည်ထောင်စုရှေ့နေချုပ်ဥပဒေပုဒ်မ ၁၂၊ ပုဒ်မခွဲ(ဌ)နှင့်အညီ ဤရုံးမှ သဘောထားမှတ်ချက်ပေးပါရန် မွန်ပြည်နယ်ဥပဒေချုပ်ရုံးက ဤရုံးသို့ ရည်ညွှန်းချက်(၁) ပါစာဖြင့် ဆက်လက်ပေးပို့လာခြင်းဖြစ်ကြောင်းတွေ့ရှိရပါသည်။

၃။ ရည်ညွှန်းချက်(၁)ပါစာဖြင့် ပေးပို့လာမှုအပေါ် B.O.T စာချုပ်(မူကြမ်း) နှစ်စုံနှင့် မြေငှားစာချုပ်(မူကြမ်း)များပါရှိလာခြင်းမရှိသည့်အတွက် ပေးပို့နိုင်ပါရန် ဤရုံးမှ ရည်ညွှန်းချက်(၃)ပါစာဖြင့် အကြောင်းကြားခဲ့ရာ ရည်ညွှန်းချက်(၄)ပါစာဖြင့် ပေးပို့ခဲ့ရာ ၉-၁၀-၂၀၁၅ ရက်နေ့တွင် လက်ခံရရှိခဲ့ပါသည်။

၄။ B.O.T စာချုပ်(မူကြမ်း) ၏ Whereas အပိုဒ်နှင့် ရည်ညွှန်းစာပါအရ Myanmar Tap Water Co, Ltd သည်ထိုင်းနိုင်ငံအခြေစိုက်သောက်သုံးရေဖြန့်ဝေရေးကုမ္ပဏီ TTW Co., Ltd ၏ လက်အောက်ခံဖြစ်သော Thai Water Operations Co, Ltd နှင့် မြန်မာနိုင်ငံမှ Z Corporation Co., Ltd တို့ ပူးပေါင်း၍ မြန်မာနိုင်ငံတွင် Myanmar Tap Water Co, Ltd အဖြစ် ဖွဲ့စည်း တည်ထောင်ထားသည့် ဖက်စပ်ကုမ္ပဏီတစ်ခုဖြစ်ပြီး မွန်ပြည်နယ်၊ မော်လမြိုင်မြို့တွင် သောက်သုံးရေသန့်စင်ပေးဝေခြင်းစနစ် စီမံကိန်းအားဆောင်ရွက်မည်ဖြစ်ကြောင်း တွေ့ရှိရပါသည်၊

၅။ ရည်ညွှန်းချက်(၄)ပါစာနှင့်အတူ ပူးတွဲပေးပို့လာသော B.O.T စာချုပ်(မူကြမ်း) အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည်-

(က) B.O.T စာချုပ်(မူကြမ်း) ၏စာချုပ်ဝင်များအပိုဒ်အား စာချုပ်ပုံစံကျနမှုရှိစေရန် မင်နီဖြင့်ပြင်ဆင်ပေးလိုက်ပါသည်။ ထို့ပြင် စာချုပ်ဝင်များအပိုဒ်တွင်

ကိုယ်စားပြုသူ၏အမည်၊ ရာထူးတို့အား ကွက်လပ်များဖြင့်ဖော်ပြထား၍ စာချုပ်ချုပ်ဆိုချိန်တွင် ပြည့်စုံစွာဖြည့်စွက်ပြီးဖြစ်ရန်လိုအပ်ပါသည်၊

(ခ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 1.1 Definitions ခေါင်းစဉ်အောက်ရှိ Commercial Operation Date ကို ရေအသုံးပြုသူများထံသို့ ပေးပို့ရန် အဆင်သင့်ဖြစ်သည့် နေ့ဟုလည်းကောင်း၊ အပိုဒ် 8.1 တွင် ကုမ္ပဏီအနေဖြင့် အနည်းဆုံး ရက်(၃၀) ကြိုတင်၍ စီးပွားဖြစ်လုပ်ငန်းစတင်သည့်နေ့ကို အကြောင်းကြားမည်ဟုလည်းကောင်း ဖော်ပြထားရာ အချိန်ကာလအားတိကျစွာဖော်ပြထားခြင်းမရှိသည်ကို တွေ့ရှိရပါသည်။ သို့ပါ၍ စာချုပ်လက်မှတ်ရေးထိုးပြီးနောက် အချိန်ကာလမည်မျှအတွင်း စီးပွားဖြစ်လုပ်ငန်းစတင်နိုင်မည်ကို တိကျစွာသတ်မှတ်ဖော်ပြသင့်ပါသည်၊

(ဂ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 1.1 Definitions ခေါင်းစဉ်အောက်ရှိ Land Procurement Plan အဓိပ္ပာယ်ဖွင့်ဆိုချက်တွင် ကုမ္ပဏီအားရယူမည့် မြေတစ်ကွက်ချင်းစီ၏ အသေးစိတ်ကိုနောက်ဆက်တွဲ(၂)တွင် ဖော်ပြထားသည့်ပုံစံနှင့် အပိုဒ် 4.1 တွင် သတ်မှတ်ထားသည့်အတိုင်း ရေပေးဝေရမည်ကိုဆိုလိုကြောင်း ဖော်ပြထားသည်ကိုတွေ့ရှိရပါသည်။ အပိုဒ် 4.1 ၌ အဆိုပါ ရယူအသုံးပြုသည့် မြေတွင် MSDA မှ ကုမ္ပဏီသို့ ငှားရမ်းမည့်မြေနှင့် အခွင့်အရေးမပါဝင်ကြောင်း ဖော်ပြထားရာ နောက်ဆက်တွဲ(၂)အရ ကုမ္ပဏီမှရယူမည့်မြေကို MSDA မှ ကုမ္ပဏီသို့ မည်သည့်စည်းကမ်းချက်ဖြင့် အသုံးပြုခွင့်ပေးမည်ဆိုသည်မှာ ရှင်းလင်းမှုမရှိပါသဖြင့် ဌာနမှပြန်လည်စိစစ်သင့်ပါသည်၊

(ဃ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 1.1 Definitions ခေါင်းစဉ်အောက်ရှိ Wate Treatment Plant ရေသန့်စင်သည့်အလုပ်ရုံဆိုသည့် အဓိပ္ပာယ်ရှင်းလင်းချက်

တွင်(ရေသန့်စင်သည့်အလုပ်ရုံတည်ရှိရာမြေအပါအဝင်) ဟု ဖော်ပြထားသော်လည်း စာချုပ်(မူကြမ်း)ပါ စည်းကမ်းချက်များတွင် အလုပ်ရုံတည်ရှိရာမြေနှင့် စပ်လျဉ်း၍ တည်နေရာ၊ လိပ်စာ၊ အကျယ်အဝန်းတို့ကို သတ်မှတ်ဖော်ပြထားခြင်းမရှိသည်ကို တွေ့ရှိရပါသဖြင့် စည်းကမ်းချက်တစ်ရပ်အနေဖြင့် သီးခြားခေါင်းစဉ်ဖြင့်သတ်မှတ်ဖော်ပြသင့်ပါသည်၊

(c) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 1.1 Definitions ခေါင်းစဉ်အောက်ရှိ Company's Rights နှင့် အပိုဒ် 2.1 တို့ရှိ Company's Rights ၏ အဓိပ္ပာယ်ဖွင့်ဆိုချက်တွင် စာချုပ်သက်တမ်းအတွင်း ကုမ္ပဏီသို့ သီးသန့်အခွင့်အရေး (exclusive right)ပေးရမည့်ကိစ္စရပ်များကို ဖော်ပြထားရာ MSDA အနေဖြင့် အဆိုပါ အခွင့်အရေးများပေးအပ်နိုင်ခြင်းရှိ မရှိ သေချာစွာစိစစ်ပြီးမှသာ လက်ခံသင့် ပါသည်။ ထို့ပြင် အပိုဒ် 2.4 တွင် အဆိုပါ exclusive right အဖြစ်ပေးထားသော Company's Rights နှင့် စပ်လျဉ်း၍ MSDA အနေဖြင့် ငွေကြေးတစ်စုံတစ်ရာတောင်းဆိုခွင့်မရှိကြောင်းဖော်ပြထားရာ ဌာနမှလက်ခံနိုင်ခြင်းရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်၊

(စ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 2.1 ဒုတိယစာပိုဒ်တွင် Commercial Operation Date စတင်ပြီးနောက် Service Areas အတွင်း ရေဖြန့်ဝေခြင်းမပြုရကြောင်း ဖော်ပြထားရာ MSDA အနေဖြင့် သတိပြုသင့်ပါသည်၊

(ဆ) B.O.T စာချုပ်(မူကြမ်း) 2.2 တွင် ကုမ္ပဏီအနေဖြင့် ဤသဘောတူစာချုပ်အား ပြဋ္ဌာန်းချက်များနှင့်အညီ လိုအပ်ပါက (where necessary) ဒေသဆိုင်ရာအာဏာပိုင်များ၏ အကူအညီဖြင့် စာချုပ်ကိုအကောင်အထည်ဖော်ရ မည်ဟု ဖော်ပြထားရာ ရှင်းလင်းမှုမရှိပါသဖြင့် ဌာနမှပြန်လည်စိစစ်သင့်ပါသည်၊

(ဇ) B.O.T စာချုပ်(မူကြမ်း)အပိုဒ် 2.5 စာချုပ်(သို့မဟုတ်) By Law အရ သတ်မှတ်ဖော်ပြချက်မှတပါး ကုမ္ပဏီသည် ၄င်း၏ဆောင်ရွက်ချက်များနှင့် စပ်လျဉ်း၍ MSDA ၏ ခွင့်ပြုချက် (သို့မဟုတ်) သဘောတူညီချက်ရယူရန် မလိုအပ်ကြောင်းနှင့် MSDA သို့အကြောင်းကြားဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြထားရာ MSDA အနေဖြင့်လက်ခံရန်သင့် မသင့် ပြန်လည်စိစစ်သင့်ပါသည်၊

(ဈ) B.O.T စာချုပ်(မူကြမ်း)အပိုဒ် 2.6 တွင် MSDA အနေဖြင့် စီမံကိန်း သို့မဟုတ် Facilities များအပေါ်တွင် ထိခိုက်မှုဖြစ်စေမည့် ကိစ္စရပ်တစ်ရပ်ရပ်ကိုဆောင်ရွက်ခြင်း(သို့မဟုတ်) အခြားသူတစ်ဦးဦးမှပြုလုပ်ရန်ဆောင်ရွက်သည်ကိုခွင့်ပြုခြင်းမှရှောင်ကြဉ်ရန်သဘောတူကြောင်းဖော်ပြထားရာ MSDA အနေဖြင့် သတိပြုသင့်ပါသည်၊

(ည) B.O.T စာချုပ်(မူကြမ်း)အပိုဒ် 4. 2.4 Local Distribution Network ဒီဇိုင်းရေးဆွဲခြင်းဆောင်ရွက်ရန်ကုမ္ပဏီအတွက်မြေအသုံးချမှုအခွင့်အရေးကိုMSDA အနေဖြင့် ၄င်း၏ကုန်ကျစရိတ်ဖြင့်ရယူပေးရမည်ဖြစ်ကြောင်း ဖော်ပြထားရာ MSDA အနေဖြင့် လက်ခံနိုင်ခြင်းရှိ မရှိပြန်လည်စိစစ်သင့်ပါသည်။ ထို့ပြင် ကုမ္ပဏီသည်စီမံကိန်းပြီးစီးရန်အတွက် လိုအပ်သောအချိန်ဇယား သတ်မှတ်ချက်ရှိရမည်ဟုဖော်ပြထားရာ စီမံကိန်းပြီးစီးရန်သတ်မှတ်ရမည့် အချိန်ကာလကို ကုမ္ပဏီမှသတ်မှတ်သည့်သဘော သက်ရောက်နေပါသဖြင့် MSDA နှင့် ညှိနှိုင်းသတ်မှတ်ရန်သင့် မသင့် ပြန်လည်စိစစ်သင့်ပါသည်၊

(ဋ) B.O.T စာချုပ်(မူကြမ်း)အပိုဒ် 5.2.2 တွင် စာချုပ်သက်တမ်းကာလနှင့် သက်တမ်းတိုးသည့်ကာလ ကုန်ဆုံးသည့်တိုင်အောင် ကုမ္ပဏီကတပ်ဆင်ခဲ့သည့်

ပစ္စည်းများသည် ကုမ္ပဏီပိုင်ပစ္စည်းများဖြစ်ကြောင်းဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ စာချုပ်သက်တမ်းကုန်ဆုံးပါက အဆိုပါပစ္စည်းများကို MSDA သို့ လွှဲပြောင်းပေးပါက မည်သို့လွှဲပြောင်းမည်ဆိုသည့် စည်းကမ်းချက်အား ထည့်သွင်းသင့်သည်ဟု သဘောရရှိပါသည်၊

(ဠ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 5.3.1 တွင် MSDA ၏ တာဝန်ဝတ္တရားများကို ဖော်ပြထားရာ အဆိုပါ စည်းကမ်းချက်များနှင့်စပ်လျဉ်း၍ ဌာနမှ လိုက်နာဆောင်ရွက်လက်ခံနိုင်ခြင်းရှိ မရှိ ကြိုတင်စိစစ်သင့်ပါသည်။ ထို့ပြင် အပိုဒ် 5.3.1 (5)တွင်ကုမ္ပဏီအားရေပေးဝေမှုနှင့် စပ်လျဉ်း၍အသုံးပြုနေသောပစ္စည်းများကို အခကြေးငွေမတောင်းခံဘဲ exclusive right ဖြင့် အသုံးပြုခွင့်ပေးရမည်ဖြစ်ကြောင်းဖော်ပြထားရာ ဌာနမှလက်ခံနိုင်ခြင်းရှိ မရှိ ပြန်လည် စိစစ်သင့်ပါသည်၊

(ဍ) B.O.T စာချုပ်(မူကြမ်း)အပိုဒ် 5.3.1 (6)နှင့် (10) တို့တွင် သက်ဆိုင်သည့် နည်းဥပဒေများ သို့မဟုတ် စည်းမျဉ်းများ၊ ရေအသုံးပြုခြင်းနှင့် ပတ်သက်သော စည်းမျဉ်းစည်းကမ်းများ(ရေခွန်နှုန်းထားညှိနှိုင်းခြင်း)တို့နှင့် ပတ်သက်၍ MSDA မှ ထုတ်ပြန်၍ကာကွယ်ပေးရမည်ဖြစ်ကြောင်း ဖော်ပြထားရာ ဌာနအနေဖြင့် ထိုသို့ ဆောင်ရွက်နိုင်ခွင့်ရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်၊

(ဎ) B.O.T စာချုပ်(မူကြမ်း)အပိုဒ် 5.3.1 (13) ပါ စည်းကမ်းချက်နှင့်စပ်လျဉ်း၍ လျှပ်စစ်စွမ်းအားဝန်ကြီးဌာနနှင့် ကြိုတင်ညှိနှိုင်းဆောင်ရွက်ထားရန်လိုအပ်ပါသည်၊

(ဏ) B.O.T စာချုပ်(မူကြမ်း)အပိုဒ် 6.1.4 တွင် စာချုပ်သက်တမ်းကာလအတွင်း လိုအပ်သော သဘောတူညီချက်များနှင့်စပ်လျဉ်း၍ စည်းကမ်းချက်များကို

ဖော်ပြထားပြီး အဆိုပါစည်းကမ်းချက်များနှင့် စပ်လျဉ်း၍ ကုမ္ပဏီ၏အကျိုးစီးပွား ကိုထိခိုက်ပါက MSDA နှင့် ကုမ္ပဏီတို့အကြား အဆိုပါကိစ္စရပ်ကို ဖြေရှင်းရန်သဘောတူကြောင်း၊ ထိုသို့ ဖြေရှင်း၍မရပါက ကုမ္ပဏီအနေဖြင့် စာချုပ်ကိုရပ်စဲရန်အကြောင်းကြားစာပေးပို့နိုင်ကြောင်းဖော်ပြထားရာMSDA အနေ ဖြင့် လက်ခံနိုင်ခြင်းရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်၊

(တ) B.O.T စာချုပ်(မူကြမ်း)အပိုဒ် 6.2.2 တွင် MSDA သည် စီမံကိန်းအတွင်း တင်သွင်းလာသော ပစ္စည်းများအကောက်ခွန်ကင်းလွတ်ခွင့်ရရှိရန်အတွက် အချိန်မီဆောင်ရွက်ပေးရမည်ဟုဖော်ပြထားပြီး အခွန်ဌာနအပါအဝင် အခြားဝန်ကြီးဌာနများနှင့်ပူးပေါင်းဆောင်ရွက်ပေးရန်ဖော်ပြထားပါသဖြင့်သက်ဆိုင်ရာဝန်ကြီးဌာနများနှင့် ကြိုတင်ညှိနှိုင်း ဆောင်ရွက်ထားရန်လိုအပ်မည်ဖြစ်ပါသည်၊

(ထ) B.O.T စာချုပ်(မူကြမ်း)အပိုဒ် 7.1.4 နှင့် အပိုဒ် 7.1.5 တို့တွင် Commercial Operation Date သတ်မှတ်ခြင်းနှင့် စပ်လျဉ်း၍ ဖော်ပြချက်များသည် ရှင်းလင်းတိကျမှုမရှိသည့်အတွက် Commercial Operation Date စတင်မည့်ရက်အား ရှင်းလင်းတိကျစွာဖော်ပြသင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဒ) B.O.T စာချုပ်(မူကြမ်း) တွင် Commercial Operation Date နှင့် စပ်လျဉ်း၍ အပိုဒ် 7 Construction ခေါင်းစဉ်အောက်ရှိ စည်းကမ်းချက်များတွင် အဆောက်အဦဆောက်လုပ်ခြင်းဟုလည်းကောင်း၊ အပိုဒ် 8 Commence of Treatment Water Production တွင် ရေသန့်စင်ထုတ် လုပ်မှုကို စတင်ခြင်းဟုလည်းကောင်းဖော်ပြထားရာ Commercial Operation Date

သတ်မှတ်သည့်စည်းကမ်းချက်များ ကွဲလွဲမှုရှိနေသည်ဟု ယူဆပါသဖြင့် ဌာနမှပြန်လည် စိစစ်သင့်ပါသည်၊

(ဓ) B.O.T စာချုပ်(မူကြမ်း) 7.1.2 Commercial Operation Date ကို စာချုပ်လက်မှတ်ထိုးသည့်နေ့မှ(၃၇)လအတွင်း စတင်ရမည်ဟုလည်းကောင်း၊ အပိုဒ် 11.1 တွင် တည်ဆောက်ရေးကာလကို MIC ခွင့်ပြုမိန့်ထုတ်ပြီးသည့်နောက်လပေါင်း(၃၀)ဟုလည်းကောင်း ဖော်ပြထားရာ အချိန်ကာလ သတ်မှတ်ချက်များကိုက်ညီမှုရှိစေရေးအတွက် ဌာနမှပြန်လည်စိစစ်သင့်ပါသည်၊

(န) B.O.T စာချုပ်(မူကြမ်း)အပိုဒ် 11.1 တွင် သက်တမ်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် (MIC) မှ ခွင့်ပြုမိန့်ရရှိသည့်နေ့မှ တည်ဆောက်ရေးကာလလပေါင်း(၃၀)မပါဝင်ဘဲ နှစ်(၃၀)ဟုဖော်ပြထားပါသည်။ အဆိုပါသက်တမ်းမှာ လုပ်ငန်းဆောင်ရွက်မှုသက်တမ်း(သို့မဟုတ်) စာချုပ်သက်တမ်းမည်သည်ကိုဆိုလိုကြောင်း ရှင်းလင်းမှုမရှိပါ။ လုပ်ငန်းဆောင်ရွက်မှုသက်တမ်းနှင့် စာချုပ်သက်တမ်းတို့ကို သီးခြားခေါင်းစဉ်များဖြင့် ရှင်းလင်းစွာဖော်ပြရန်လိုအပ်ပါသည်။ လုပ်ငန်းကာလသက်တမ်းသည် စာချုပ်သက်တမ်းအတွင်းကျရောက်ရန်လိုအပ်ပါသည်၊

(ပ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 11.2 တွင်ကုမ္ပဏီအနေဖြင့် စာချုပ်သက်တမ်းတိုးရန် ဦးစွာအခွင့်အရေး(preemptive right) ရှိကြောင်းဖော်ပြထားပါသည်။ ငှားရမ်းသည့်မြေငှားရမ်းကာလ(သို့မဟုတ်) မြေအသုံးပြုခွင့် ကာလတိုးမြှင့်ခြင်းနှင့်စပ်လျဉ်း၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ-၃၂၌ "ကော်မရှင်သည် ပုဒ်မ ၃၁ အရ ခွင့်ပြုထားသော သက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက်လုပ်ကိုင်လိုသော ရင်းနှီးမြှုပ်နှံသူအား ရင်းနှီးမြှုပ်နှံမှုပမာဏနှင့်

လုပ်ငန်းအမျိုးအစားပေါ်မူတည်၍ တစ်ဆက်တည်း သက်တမ်းတိုးခွင့် (၁၀)နှင့် ယင်းသက်တမ်းကုန်ဆုံးပြီး ထပ်မံ၍(၁၀)နှစ်သက်တမ်းတိုးမြှင့်ပေးနိုင်သည်”ဟုဖော်ပြထားရာနိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ သက်တမ်းတိုးမြှင့်ရန်လိုအပ်ပါသည်၊

(ဖ) B.O.Tစာချုပ်(မူကြမ်း)အပိုဒ် 12.1.1(d) နှင့် 12.2.1 (a)တို့တွင် materially breaches ဟု ဖော်ပြထားရာ materially breaches သည် မည်သည့်ကိစ္စရပ်များကို ဆိုလိုခြင်းဖြစ်ကြောင်း သတ်မှတ်ဖော်ပြသင့်ပါသည်။ ဌာနမှပြန်လည်စိစစ်သင့်ပါသည်၊

(ဗ) B.O.T စာချုပ်(မူကြမ်း)အပိုဒ် 12.1.1(a) တွင် “The Company Fails to Commence the Works within ninety(90) days ------ from the such failure is not caused by any Force Majeure or Exceptional Event” ဟူ၍ဖော်ပြထားသည်ကိုတွေ့ရှိရပါသည်။ကုမ္ပဏီမှဌာနသို့အကြောင်းကြားသည့်နေ့မှ ရက်ပေါင်း(၉၀)အတွင်းလုပ်ငန်း စတင်ရန် ကုမ္ပဏီဘက်မှ ပျက်ကွက်လျှင်ဟုသဘောသက်ရောက်နေသဖြင့်ရှင်းလင်းမှုမရှိပါသောကြောင့် ဌာနမှပြန်လည်စိစစ်သင့်ပါသည်၊

(ဘ) B.O.T စာချုပ်(မူကြမ်း)အပိုဒ် 12.1.2 တွင် သတ်မှတ်ကာလမကုန်ဆုံးမီ အပိုဒ် 12.1.1 တွင် ဖော်ပြထားသော အခြေအနေများကို ကုစားခဲ့ခြင်းမရှိလျှင် MSDA အနေဖြင့်တည်ဆဲဥပဒေများနှင့်အညီ ကုမ္ပဏီအပေါ် ဥပဒေကြောင်းအရ အရေးယူဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ တဖန် အပိုဒ် 12.2.2 သတ်မှတ်ထားသော ကာလမကုန်ဆုံးမီ အပိုဒ် 12.2.1 ပါ အခြေအနေများကိုမကုစားခဲ့လျှင် ကုမ္ပဏီအနေဖြင့် ယခုစာချုပ်ကိုရုပ်သိမ်းနိုင်ကြောင်း

ဖော်ပြထားပါသည်။ သို့ဖြစ်ရာ ကုစားမှုမရှိသည့်အခြေအနေများအပေါ်တွင် MSDA နှင့် ကုမ္ပဏီတို့အကြား ရရှိမည့်အခွင့်အရေးများမှာ မတူညီသည့်အပြင် အပိုဒ် 12.2.2 အရ စာချုပ်ရပ်စဲသည့်အခါ MSDA ဘက်မှ ပေးလျော်ရမည့်လျော်ကြေးငွေများကို ဖော်ပြထားသည်ကိုတွေ့ရှိရပါသည်။ သို့ပါ၍ အပိုဒ် 12.1.2 ၊ အပိုဒ် 12.2.2 နှင့် အပိုဒ် 12.2.3 တို့ပါ စည်းကမ်းချက်တို့အား ဌာနမှပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(မ) B.O.T စာချုပ်(မူကြမ်း)အပိုဒ် 12.2.3 တွင် MSDA အနေဖြင့် စာချုပ်ရပ်စဲပါက ကုမ္ပဏီသို့လျော်ကြေးပေးရမည်ဖြစ်ကြောင်းနှင့် အဆိုပါလျော်ကြေးပမာဏကို ကုမ္ပဏီမှခန့်အပ်သော လွတ်လပ်သောစာရင်းစစ် (Independent Auditor ) က ဆုံးဖြတ်မည်ဖြစ်ကြောင်း ဖော်ပြထားရာ ဌာနအနေဖြင့် လက်ခံရန်သင့် မသင့် ပြန်လည်စိစစ်သင့်ပါသည်၊

(ယ) B.O.T စာချုပ်(မူကြမ်း)အပိုဒ် 13.1(f) တွင် ရေအရင်းအမြစ်လျော့နည်းလာခြင်း၊ အပိုဒ်ခွဲ(g)တွင် MSDA မှ ခွင့်ပြုမိန့်များ၊ လိုင်စင်များဆောင်ရွက်မှုမပေးနိုင်ခြင်း သို့မဟုတ် ကြန့်ကြာခြင်း၊ အပိုဒ်ခွဲ (h) တွင် Local Distribution Network အား MSDA မှ အနှောင့်အယှက်မရှိစေရန် ကာကွယ်သော်လည်း ပစ္စည်းယိုယွင်းခြင်း၊ အပိုဒ်ခွဲ (i) တွင် ရေအရင်းအမြစ် ၏စံချိန်စံညွှန်းမမီခြင်းကိစ္စများအား ထည့်သွင်းသတ်မှတ်ထားရာ လုပ်ငန်းလိုအပ်ချက်အရ အဆိုပါအချက်များအား Exceptional Event အဖြစ် ထည့်သွင်းသတ်မှတ်ရန်သင့် မသင့် ပြန်လည်စိစစ်သင့်ပါသည်၊

(ရ) B.O.T စာချုပ်(မူကြမ်း)အပိုဒ် 13.3 တွင် "-------Within a reasonable time following the date of termination-------" ဟု ဖော်ပြထားရာ တိကျသောအချိန်ကာလ သတ်မှတ်ဖော်ပြရန်လိုအပ်ပါသည်၊

(လ) B.O.T စာချုပ်(မူကြမ်း)အပိုဒ် 13.5.1(b) တွင် "------- it is uncertain as to when the Force Majeure or Exception Event will be over----" ဟု ဖော်ပြထားပါသည်။ ထိုသို့ ဖော်ပြမည့်အစား "မလွန်ဆန်နိုင်သောဖြစ်ရပ်အား တစ်ဆက်တည်း ( )လ ထက်ကျော်လွန်ဖြစ်ပွားသည့်အခါ" ဟု ဖော်ပြသင့်ပါသည်၊

(ဝ) B.O.T စာချုပ်(မူကြမ်း)အပိုဒ် 13.5.2 တွင် သက်တမ်းမကုန်ဆုံးခင် စာချုပ်ရပ်စဲခဲ့လျှင် MSDA အနေဖြင့် ကုမ္ပဏီထံမှ Facilities များကို လက်ရှိအခြေအနေအတိုင်း အပိုဒ် 12.2.3(1) နှင့် (2) တို့အရ ပေးလျော်ရမည့်လျော်ကြေး နှင့်တူညီသောတန်ဖိုးဖြင့် ဝယ်ယူရမည်ဖြစ်ကြောင်း ဖော်ပြထားရာ MSDA အနေဖြင့် အဆိုပါအချက်အား လက်ခံနိုင်ခြင်းရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်၊

(သ) B.O.T စာချုပ်(မူကြမ်း)အပိုဒ် 15 Notices တွင် အကြောင်းကြားပေးပို့ဆက်သွယ်ရမည့်လိပ်စာကို စာချုပ်ချုပ်ဆိုသည့်အချိန်တွင် ပြည့်စုံစွာဖြည့်စွက်ပြီးဖြစ်ရန်လိုအပ်ပါသည်၊

(ဟ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 16.3 တွင် "Any Dispute or difference------ UNCITRAL Arbitration Rules by(3)three arbitrators" ဟုလည်းကောင်း၊ အပိုဒ် 16.3 အဋ္ဌမမြောက်စာကြောင်းတွင် "except the termination shall be Region or State where the Facilities are

Located" ဟု လည်းကောင်း ဖော်ပြထားပါသည်။ အပိုဒ် 16.1 နှင့် အပိုဒ် 16.2 တို့အရ မဖြေရှင်းနိုင်ပါက UNCITRAL Arbitration Rules အရ ဆောင်ရွက်ရမည်ဟုဖော်ပြထားပြီး အဌမမြောက်စာကြောင်းတွင်မူ Facilities တည်ရှိသော တိုင်းဒေသကြီး (သို့) ပြည်နယ်အတွင်းရှိ တည်ဆဲဥပဒေအတိုင်း သာဆောင်ရွက်ရမည်ဟု ဖော်ပြထားရာ စည်းကမ်းချက်ချင်းညီညွတ်မှုမရှိဟု ယူဆပါသဖြင့်ဌာနမှပြန်လည်စိစစ်သင့်ပါသည်၊

(ဠ) B.O.Tစာချုပ်(မူကြမ်း)တွင်မြစ်ရေသန့်စင်ဖြန့်ဝေခြင်းလုပ်ငန်းအား လုပ်ကိုင်ဆောင်ရွက်မည့် လုပ်ငန်း၏တည်နေရာ၊ အကျယ်အဝန်း၊ လိပ်စာအပြည့်အစုံတို့ကို သီးခြားခေါင်းစဉ်ဖြင့် ထည့်သွင်းသတ်မှတ်ဖော်ပြသင့်ပါသည်၊

(အ) B.O.T စာချုပ်(မူကြမ်း) တွင် လုပ်ငန်းအာမခံကြေး (Performance Bank Guarantee)နှင့်စပ်လျဉ်းသည့် စည်းကမ်းချက်မပါရှိကြောင်းတွေ့ရှိရပါသည်။ လုပ်ငန်းအာမခံကြေးရယူရန်သင့်မသင့်ဌာနမှသတိပြုဆောင်ရွက်သင့်ပါသည်၊

(ကက)B.O.T စာချုပ်(မူကြမ်း) တွင် Land Use Premium ကြေးရယူထားခြင်းမရှိကြောင်းတွေ့ရှိရပါသည်။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနည်းဥပဒေပုဒ်မ ၁၁၈ ၌ "အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းပိုင်မြေများကို ငှားရမ်းရာတွင် မြေအသုံးပြုမှုပရီမီယံကြေးကို သက်ဆိုင်ရာအစိုးရဌာန၊ အစိုးရအဖွဲ့အစည်းက ရင်းနှီးမြှုပ်နှံသူထံမှတောင်းခံနိုင်သည်" ဟု ပြဋ္ဌာန်းထားကြောင်း သိရှိနိုင်ရန်အတွက် ဖော်ပြအပ်ပါသည်၊

(ခခ) B.O.T စာချုပ်(မူကြမ်း) ၏ စာချုပ်ဝင်များအပိုဒ်ရှိ ဌာန၏ အမည် The Mon State Development Affairs under the authority of the Mon State Government, the Republic of the Union of Myanmar ဟု

လည်းကောင်း၊ မြေငှားစာချုပ်(မူကြမ်း)၏စာချုပ်ဝင်များအပိုဒ်ရှိ ဌာန၏ အမည် Mawlamyine Township Development Committee, Ministry of Development, as empowered by Mon State Government, the Republic of the Union of Myanmar ဟု လည်းကောင်းဖော်ပြထားရာ စာချုပ်ဝင်တူညီပါက စာချုပ်ဝင်အမည်အား အင်္ဂလိပ်အသုံးအနှုန်းဖြင့်ဖော်ပြရာတွင်တူညီမှုရှိစေရေးနှင့် မှန်ကန်မှုရှိစေရေးတို့အတွက် ဌာနမှပြန်လည်စိစစ်သင့်ပါသည်၊

(ဂဂ) B.O.T စာချုပ်(မူကြမ်း) တွင် ကွက်လပ်များပါရှိရာ စာချုပ်ချုပ်ဆိုချိန်တွင် ယင်း ကွက်လပ်များအားပြည့်စုံစွာဖြည့်စွက်ပြီးဖြစ်ရန် လိုအပ်ပါသည်၊

(ဃဃ) လိုအပ်သောနေရာများတွင် မင်နီဖြင့်ပြင်ဆင်ဖြည့်စွက်ပေးလိုက်ပါသည်။

၆။ ရည်ညွှန်းချက်(၄)ပါစာနှင့်အတူ ပူးတွဲပေးပို့လာသော မြေငှားစာချုပ်(မူကြမ်း) အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည်-

(က) မြေငှားစာချုပ်(မူကြမ်း) ၌ ဖော်ပြထားသည့် အချို့စည်းကမ်းချက်များတွင် B.O.T စာချုပ်(မူကြမ်း) ပါအတိုင်းဟု ဖော်ပြထားရာ မြေငှားစာချုပ်(မူကြမ်း) ၌ အဆိုပါအချက်များအား B.O.T စာချုပ်(မူကြမ်း) တွင်ဖော်ပြပါရှိသည့်အတိုင်း ပြည့်စုံစွာထည့်သွင်းဖော်ပြရန်ဖြစ်ပါသည်။ ဌာနမှပြန်လည်စိစစ်သင့်ပါသည်၊

(ခ) မြေငှားစာချုပ်(မူကြမ်း)၏ စာချုပ်ဝင်များအပိုဒ်နှင့် စပ်လျဉ်း၍ အထက်အပိုဒ် ၅(က) တွင် အကြံပြုထားသည့်အတိုင်း အကြံပြုပါသည်၊

(ဂ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 1 Definitions ခေါင်းစဉ်အောက်ရှိ Title Deeds စာပိုဒ်တွင် နောက်ဆက်တွဲအဖြစ်ဖော်ပြထားသော Exhibits 1,2 and 3 တို့မှာ ကွက်လပ်များဖြစ်နေသည့်အတွက် စစ်ဆေးပေးနိုင်ခြင်းမရှိပါ

အဆိုပါ Exhibits(Plot) များသည် စာချုပ်၏အရေးကြီးသော အစိတ်အပိုင်းတစ်ရပ်ဖြစ်သဖြင့် စာချုပ်ချုပ်ဆိုချိန်တွင် ပြည့်စုံစွာပူးတွဲတင်ပြသင့်ပါသည်၊

(ဃ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 2 Lease of Land and Term ခေါင်းစဉ်အောက်တွင် ငှားရမ်းမည့်မြေနေရာ၏အကျယ်အဝန်း၊ တည်နေရာကို လည်းကောင်း၊ တည်ဆောက်ရေးကာလကိုလည်းကောင်း၊ ငှားရမ်းသက်တမ်းနှင့် ငှားရမ်းကာလတိုးမြှင့်ခြင်းကိုလည်းကောင်း ရောထွေးစွာဖော်ပြထားရာ သီးခြားခေါင်းစဉ်ဖြင့် ရှင်းလင်းစွာဖော်ပြသင့်ပါသည်၊

(င) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 2၊ အပိုဒ်ခွဲ 2.2 တွင် Commencement Date အား ကွက်လပ်ဖြင့် ဖော်ပြထားရာ စာချုပ်ချုပ်မည့်အချိန်တွင်ပြည့်စုံစွာ ဖော်ပြပြီးဖြစ်ရန်လိုအပ်ပါသည်။ ထို့အပြင် အဆိုပါစည်းကမ်းချက်၌ Commencement Date ဟုလည်းကောင်း၊ Commercial Operation Date ဟုလည်းကောင်း အမျိုးမျိုးဖော်ပြထားသဖြင့်ဌာနမှပြန်လည်စိစစ်ရန်လိုအပ်ပါသည်။ ထို့နောက် Construction Period အား မည်သည့်အချိန်နေ့ရက်က စတင်မည်ဖြစ်ကြောင်းနှင့် Commercial Operation Date သည်လည်း မည်သည့်အချိန်မှ စတင်မည်ဖြစ်ကြောင်းကိုတိကျစွာထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်။ ထို့ပြင် စာချုပ်(မူကြမ်း)အပိုဒ်ခွဲ 2.2 တွင် မြေငှားရမ်းသည့်သက်တမ်းကို B.O.T သက်တမ်းနှင့် ချိတ်ဆက်ဖော်ပြထားပါသည်။ ထိုသို့ ချိတ်ဆက်ဖော်ပြရာတွင် တည်ဆောက်ရေးကာလ လပေါင်း(၃၀)ပါဝင်သော B.O.T စာချုပ် စတင်ဆောင်ရွက်သည့်နေ့ရက် (including the thirty (30) months of the Construction) ဟု ဖော်ပြထားရာ ရှင်းလင်းမှုမရှိပါသဖြင့် ဌာနမှပြန်လည်စိစစ်၍ ရှင်းလင်းစွာဖော်ပြသင့်ပါသည်၊

(စ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ်ခွဲ 2.3 တွင် "The Lessor Agrees to extent ----- the initial term or the first extension of the initial term" ဟု ဖော်ပြထားခြင်းနှင့် စပ်လျဉ်း၍ အထက်အပိုဒ် ၅(ဖ) ပါအတိုင်း အကြံပြု အပ်ပါသည်၊

(ဆ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 3 Rent And Payment of Rent အပိုဒ်တို့ တွင်မြန်မာကျပ်ငွေဖြင့်ပေးချေမည်ဖြစ်ကြောင်းဖော်ပြထားပါသည်။ Lessee သည် မြန်မာနိုင်ငံသားနှင့် နိုင်ငံခြားသားတို့ပူးပေါင်းတည်ထောင်ထားသည့် ဖက်စပ်ကုမ္ပဏီဖြစ်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်မည်ဖြစ် သောကြောင့် ငှားရမ်းခအားမြန်မာကျပ်ငွေဖြင့်ပေးချေမည်ဆိုပါက ဘဏ္ဍာရေး ဝန်ကြီးဌာနနှင့် ကြိုတင်ညှိနှိုင်းဆောင်ရွက်ထားရန်လိုအပ်ပါသည်၊

(ဇ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 3 တွင် Rent And Payment of Rent အား ဖော်ပြထားရာ ငှားရမ်းခပေးသွင်းခြင်းနှင့် စပ်လျဉ်း၍ ပထမနှစ်အတွက် ငှားရမ်းခအား Commencement Date တွင် ပေးချေမည်ဟုလည်းကောင်း၊ ကျန်နှစ်များအတွက် အငှားချထားသူ၏ အကြောင်းကြားစာလက်ခံရရှိပြီး ရက်ပေါင်း(၃၀)အတွင်းပေးချေမည်ဟုလည်းကောင်း ဖော်ပြထားရာ နောင်နှစ် များအတွက် ငှားရမ်းခပေးချေရမည့်နေ့ရက်အားအငှားချထားသူမှ အကြောင်း ကြားသည့်အခါမှသာပေးသွင်းမည့် သဘောသက်ရောက်နေပါသဖြင့် ပြန်လည် စိစစ်သင့်ပါသည်။ ထို့ပြင် ငှားရမ်းခကိုသတ်မှတ်ရက်ထက် နောက်ကျပေး သွင်းပါက ဌာနအနေဖြင့် မည်သို့အရေးယူ ဆောင်ရွက်မည်ဖြစ်ကြောင်း စည်းကမ်းချက် များမပါရှိသဖြင့် ထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်၊

(ဈ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 3 (3)တွင် ဖော်ပြထားသော "------- based on the reference inflation Rate applicable to Mawlamyine Township as announced by the Central Bank of Myanmar" ဆိုသည့် စည်းကမ်းချက်နှင့်စပ်လျဉ်း၍ ရှင်းလင်းမှုမရှိပါ။ Lessee မှ ငှားရမ်းကာလ(၁၂)နှစ်မှစ၍ နောက်ပိုင်းသက်တမ်းကုန်ဆုံးသည်အထိ ပေးချေရမည့်ငှားရမ်းခနှင့်စပ်လျဉ်း၍ စာချုပ်ဝင်နှစ်ဦး၏သဘောတူညီချက်ဖြင့် နောက်ဆုံးငှားရမ်းခနှုန်းထားထက်မလျော့စေဘဲ ကာလပေါက်ဈေးအတိုင်းညှိနှိုင်းသတ်မှတ်သင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ည) မြေငှားစာချုပ်(မူကြမ်း)အပိုဒ် 4 Rights and Obligations of the Lessee ၊ အပိုဒ်ခွဲ 4.1, 4.2 နှင့် အပိုဒ်ခွဲ 4.7 တို့တွင်ဖော်ပြထားသော "other related purposes" နှင့် စပ်လျဉ်း၍ ရှင်းလင်းမှုမရှိပါ။ အဆိုပါ အခြားဆက်စပ်နေသောရည်ရွယ်ချက်များနှင့်စပ်လျဉ်း၍နောင်အငြင်းပွားမှုမဖြစ်စေရန်မည်သည့်ကိစ္စရပ်များဖြစ်ကြောင်းရှင်းလင်းစွာဖော်ပြသင့်သဖြင့်ဌာနမှပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

(ဋ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 4 Rights and Obligations of the Lessee၊ အပိုဒ်ခွဲ 4.5 တွင် ဘေးချင်းကပ်လျက်ရှိသောဧရိယာများနှင့် အဆောက်အဦများမှ လွယ်ကူသက်သာစေမှုများ၊ အထူးအခွင့်အရေးနှင့် ကင်းလွတ်ခွင့်များရှိသည်ဟု ဖော်ပြထားရာ ဌာနအနေဖြင့် သတိပြုသင့်ပါသည်၊

(ဌ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ်ခွဲ 4.12 တွင် Lessee သည် မြေနှင့် အဆောက်အဦရှိ မိမိပိုင်ဆိုင်သော အခြားသောပိုင်ဆိုင်မှုများကို မိမိ၏စရိတ်ဖြင့်ဖယ်ရှား

ပိုင်ခွင့်ရှိသည်ဟု ဖော်ပြထားရာ ရက်ပေါင်းမည်မျှအတွင်း ဖယ်ရှားမည်ဖြစ်ကြောင်း ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဍ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 5 ၊ အပိုဒ်ခွဲ 5.2 တွင် မြေအသုံးပြုမှုပရီမီယံကြေး၊ အခွန်အခများနှင့် အခြားသောကုန်ကျစရိတ်များအား Lessor မှပေးရန်တာဝန်ရှိကြောင်း ဖော်ပြထားပါသည်။ မြေအသုံးပြုမှုပရီမီယံကြေးမှာ Lessee ထံမှ Lessor ကရယူလေ့ရှိပြီး မြေခွန်ကိုသာ Lessor မှ ပေးဆောင်လေ့ရှိပါသည်။ သို့ဖြစ်ပါ၍ အခြားသောစရိတ်စကနှင့် အခွန်ငွေများအား Lessor ဖြစ်သူဌာနမှပေးချေရန်ဖော်ပြထားမှုအပေါ် ဌာနမှပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

(ဎ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 5 ၊ အပိုဒ်ခွဲ 5.4 တွင် သက်ဆိုင်ရာအာဏာပိုင်များထံမှ လုပ်ငန်းလိုင်စင်နှင့် ခွင့်ပြုမိန့်ရရှိအောင် ကူညီဆောင်ရွက်ပေးရမည်ဟုဖော်ပြထားရာ ဌာနအနေဖြင့် သက်ဆိုင်ရာဌာနများနှင့် ကြိုတင်ညှိနှိုင်းဆောင်ရွက်ထားသင့်ပါသည်၊

(ဏ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 5 ၊ အပိုဒ်ခွဲ 5.5 တွင် နောက်ဆက်တွဲ(၁) (၂) (၃)ပါ အမှတ်အသားပြုထားသည့်လမ်းများမှ မြေအားဝင်ထွက်ခွင့်ပြုရန်နှင့် Lessor ၏စရိတ်ဖြင့် ပြုပြင်ထိန်းသိမ်းရန် တာဝန်ရှိစေရမည်ဟု ဖော်ပြထားရာ ပူးတွဲပါနောက်ဆက်တွဲများတွင် အမှတ်အသားများမပါရှိကြောင်း တွေ့ရှိရသည့်အပြင် Lessor ၏စရိတ်ဖြင့်ကျခံရမည်ဖြစ်ကြောင်းပါရှိရာ ဌာနမှ သတိပြုသင့်ပါသည်၊

(တ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 5 ၊ အပိုဒ်ခွဲ 5.6 တွင် ငှားရမ်းမည့်မြေနေရာတွင် ယခင်နေထိုင်သူများ၊ ကျူးကျော်လာသူများနှင့် တတိယပုဂ္ဂိုလ်မှ ယင်း

မြေနှင့်စပ်လျဉ်း၍ အကျိုးအမြတ်များတောင်းခံလာပါက အဆိုပါလူများအား ပြန်လည်နေရာချထားပေးခြင်း၊ လျော်ကြေးပေးခြင်းကိစ္စများကို Lessor မှ ၎င်း၏ကုန်ကျစရိတ်ဖြင့်သာ ဖြေရှင်းပေးမည်ဟုလည်းကောင်း၊ Lessee ၏ စီးပွားရေးလုပ်ငန်းများတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုနိုင်ရေးနှင့် Lessor မှ ယခုစည်းကမ်းချက်အားဖောက်ဖျက်ပါက ဖြစ်ပေါ်လာသော ဆုံးရှုံးနစ်နာမှုများအတွက် Lessor ကသာ ဖြေရှင်းပေးရမည်ဟု ဖော်ပြထားသည်ကိုတွေ့ရှိရပါသည်။ အဆိုပါစည်းကမ်းချက်နှင့်စပ်လျဉ်း၍ ဌာနအနေဖြင့် ငှားရမ်းမည့်မြေပေါ်တွင် စာချုပ်ပါလုပ်ငန်းစီမံကိန်းဆောင်ရွက်မှုအတွက် အများပြည်သူအား ထိခိုက်နိုင်ခြင်းရှိ မရှိ၊ ယင်းမြေပေါ်တွင် နေထိုင်လုပ်ကိုင်နေသောအများပြည်သူများရွှေ့ပြောင်းဖယ်ရှားပေးရန်လိုအပ်ခြင်းရှိ မရှိ၊ ဖယ်ရှားပေးမည်ဆိုပါက သင့်လျော်သောတန်ဖိုးကိုပေးချေရန်ရှိ မရှိ၊ ရွှေ့ပြောင်းဖယ်ရှားပေးလိုခြင်းမရှိသည့်နေရာများတွင် မည်သို့စီမံဆောင်ရွက်ပေးမည်ကို ကြိုတင်ဆောင်ရွက်သင့်ပြီး ယင်းနှင့် သက်ဆိုင်သည့် စည်းကမ်းချက်များထည့်သွင်း ဖော်ပြသင့်ပါသည်။ ထို့ပြင် ယင်းစည်းကမ်းချက်နှင့်စပ်လျဉ်း၍ ၂၀၁၂ ခုနှစ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၆ တွင် "ကော်မရှင်သည် နိုင်ငံတော်နှင့် နိုင်ငံသားတို့၏လုံခြုံရေးအခြေအနေ၊ စီးပွားရေးအခြေအနေ၊ ပတ်ဝန်းကျင်အခြေအနေနှင့် လူမှုအကျိုးစီးပွားကိုကြီးမားစွာ အကျိုးသက်ရောက်မှုဖြစ်စေနိုင်သော နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုလုပ်ငန်းကြီးများကို ပြည်ထောင်စုအစိုးရအဖွဲ့မှတဆင့် ပြည်ထောင်စုလွှတ်တော်သို့ တင်ပြရမည်" ဟု ပြဋ္ဌာန်းထားသည်ကို သိရှိနိုင်ပါရန်ဖော်ပြအပ်ပါသည်၊

(ထ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 6 The Buildings တွင် စာချုပ်ရပ်စဲလျှင် ငှားရမ်းသည့်မြေပေါ်ရှိ ပစ္စည်းများနှင့်စပ်လျဉ်း၍ Lessee မှဖယ်ရှားပေးရန်

နှင့် လျော်ကြေးပေးရန် မလိုအပ်ကြောင်းတို့ကို ဖော်ပြထားရာ စာချုပ်ရပ်စဲပါက ငှားရမ်းသည့်မြေပေါ်ရှိ Lessee ပိုင်ပစ္စည်းများအား Lessor သို့ အဖိုးစားနားမဲ့လွှဲအပ်ခြင်းရှိ မရှိနှင့် Lessor သို့လွှဲပြောင်းပေးမည်ဆိုပါက စာချုပ်ရပ်စဲပြီး မည်သည့်ကာလအတွင်းလွှဲအပ်မည်ဖြစ်ကြောင်း စည်းကမ်းချက်များကိုထည့်သွင်း ဖော်ပြသင့်ပါသည်၊

(ဒ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 7 ၊ အပိုဒ်ခွဲ 7.1 တွင် Lessor မှ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်းနှင့်စပ်လျဉ်းသည့် စည်းကမ်းချက်များအားဖော်ပြထားရာ ဌာနအနေဖြင့် အမှန်တကယ်အာမခံဆောင်ရွက်နိုင်ခြင်းရှိ မရှိ ပြန်လည်စိစစ်ပြီး အာမခံနိုင်ခွင့်ရှိမှသာ ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဓ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 7 ၊ အပိုဒ်ခွဲ 7.2 တွင် Lessee မှ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်းနှင့် စပ်လျဉ်းသည့်စည်းကမ်းချက်၌ ကုမ္ပဏီသည် မြန်မာနိုင်ငံ၏တည်ဆဲဥပဒေများနှင့်အညီ တည်ထောင်ထားခြင်းဖြစ်ကြောင်း ဖော်ပြထားရာ စာချုပ်ချုပ်ဆိုသည့်အချိန်တွင် အဆိုပါဖက်စပ်ကုမ္ပဏီအားဖွဲ့စည်းတည်ထောင်ပြီးဖြစ်ရန် လိုအပ်ပါသည်၊

(န) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 9.2 တွင် အကြောင်းကြားဆက်သွယ်ရမည့် စည်းကမ်းချက်နှင့် စပ်လျဉ်း၍ အထက်အပိုဒ် ၅(ဟ)ပါအကြံပြုချက်အတိုင်း အကြံပြုအပ်ပါသည်၊

(ပ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 11 တွင်စာချုပ်ဝင်များသည် စာချုပ်ပါလုပ်ငန်းကိစ္စပြီးမြောက်အောင် ဆောင်ရွက်ပြီး အချက်အလက်များကိုလျှို့ဝှက် အဖြစ်မှတ်ယူသိမ်းဆည်းထားရမည်ဟု ဖော်ပြထားသော်လည်း မည်သည့် အချိန်

ကာလအထိ ထိန်းသိမ်းထားရမည်ဆိုသော အချိန်ကာလသတ်မှတ်ချက်မပါရှိသဖြင့် ထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်၊

(ဖ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 11 တွင် "------ Such consent shall not be required for disclosure by a Party of any confidential information:" ဟု ဖော်ပြပြီး Clause (a)မှ (f) အထိ ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ ယင်းအပိုဒ်တွင်ပါရှိသော Clause (a)မှ (f) တွင်ဖော်ပြထားသည့် စည်းကမ်းချက်များနှင့်စပ်လျဉ်း၍ ဌာနမှလက်ခံနိုင်ခြင်းရှိ မရှိပြန်လည်စိစစ်သင့်ပါသည်၊

(ဗ) မြေငှားစာချုပ်(မူကြမ်း) တွင် ငှားရမ်းမည့်သက်တမ်းကာလပါရှိသော်လည်း စာချုပ်သက်တမ်းကာလမပါရှိသဖြင့် နှစ်ဖက်ညှိနှိုင်း၍ သီးခြားခေါင်းစဉ်ဖြင့် တိကျစွာဖော်ပြရန်ဖြစ်ပါသည်။ ငှားရမ်းသက်တမ်းကာလသည် စာချုပ်သက်တမ်းကာလအတွင်းကျရောက်ရန်လိုအပ်ပါသည်။ ထို့ပြင် စာချုပ်သက်တမ်းတိုးမြှင့်ခြင်းစည်းကမ်းချက်မပါရှိ၍ ဖော်ပြရန်လိုအပ်ပါသည်။ စာချုပ်သက်တမ်းတိုးမြှင့်ရာ၌တစ်ကြိမ်လျှင် အချိန်ကာလမည်မျှဖြင့်အကြိမ်ရေမည်မျှအထိ တိုးမြှင့်နိုင်ကြောင်းထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်။ စာချုပ်သက်တမ်းနှင့် စာချုပ်သက်တမ်းတိုးမြှင့်ခြင်းတို့သည် B.O.T စာချုပ်၌ ဖော်ပြထားချက်များနှင့် ကိုက်ညီရန်လိုအပ်ပါသည်၊

(ဘ) မြေငှားစာချုပ်(မူကြမ်း) တွင် အရေးကြီးသော ဥပဒေရေးရာအပိုဒ်များဖြစ်သော စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့နှင့် လုပ်ကိုင်ဆောင်ရွက်မည့်ဥပဒေ(Law of Performance) တို့ မပါရှိသဖြင့် ခေါင်းစဉ်အသီးသီးဖြင့် ထည့်သွင်းဖော်ပြသင့်ပါသည်၊

(မ) မြေငှားစာချုပ်(မူကြမ်း)တွင် Land Use Premium ဖော်ပြထားခြင်းမရှိသဖြင့် ယင်းစည်းကမ်းချက်နှင့် စပ်လျဉ်း၍ အထက်အပိုဒ် ၅(ခခ) ပါ အကြံပြုချက်အတိုင်း အကြံပြုအပ်ပါသည်၊

(ယ) ပေးပို့လာသော မြေငှားစာချုပ်(မူကြမ်း) သည် မွန်ပြည်နယ်၊ မော်လမြိုင်မြို့၊ အတ္တရံမြစ်ရေကိုသန့်စင်၍ ရေဖြန့်ဝေခြင်းလုပ်ငန်းဆောင်ရွက်ရန်ချုပ်ဆိုမည့် စာချုပ်ဖြစ်ကြောင်း တွေ့ရှိရပါသဖြင့် ရေအရင်းအမြစ်နှင့် မြစ်ချောင်းများထိန်းသိမ်းရေးဥပဒေနှင့်အညီ ဆောင်ရွက်ရန်လိုအပ်ပါသည်၊

(ရ) မြေငှားစာချုပ်(မူကြမ်း) တွင် Renegotiation ၊ Re-entry to the Land ၊ Re-transfer of the Land တို့နှင့် စပ်လျဉ်းသည့် စည်းကမ်းချက်များမပါရှိ၍ အလားတူစာချုပ်များတွင် အသုံးပြုလေ့ရှိသော စာပိုဒ်များကို Slip ကပ်ပေးလိုက်ပါသည်၊

(လ) လိုအပ်သောနေရာများတွင် မင်နီဖြင့် ပြင်ဆင်ဖြည့်စွက်ပေးလိုက်ပါသည်။

၆။ တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရအစိုးရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့်သို့မဟုတ် သက်သာခွင့်မရရှိသေးလျှင်ကျသင့်သောတံဆိပ်ခေါင်းခွန်ကို "Lessee" က ထမ်းဆောင်ရမည်ဖြစ်ပါသည်။

၇။ ဤ စာချုပ်(မူကြမ်း) ၂ ရပ်ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရ သာ ဥပဒေအကြံဉာဏ်ပေးခြင်း ဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့်မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့် စပ်လျဉ်း၍သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန်အကြံပြုပါသည်။

၈။ Myanmar Tap Water Operations Co, Ltd သည် ဥပဒေအရ တရားဝင် ဖွဲ့စည်းထားသော ကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ် ၂ ရပ်တွင်လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ်စသည်တို့အတွက် သက်ဆိုင်ရာစာရွက်စာတမ်းများတောင်းယူစိစစ်သင့်ပါသည်။

၉။ ဤ စာချုပ်(မူကြမ်း)၂ ရပ် ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင် ရန်အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်စီပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၁၀။ ဤ အကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန် ဖြစ်ပါသည်။

၂၇.၁၀.၂၀၁၅

( ကျော်ဆန်း )

ညွှန်ကြားရေးမှူးချုပ်( တာဝန် )

မွန်ပြည်နယ်ဥပဒေချုပ်ရုံး

မိတ္တူ - ရုံးလက်ခံ/ မျှောစာတွဲ

ပြည် နယ် စည် ပင် သာ ယာ ရေး အ ဖွဲ့
မွန် ပြည် နယ် - မော် လ မြိုင် မြို့
စာအမှတ်၊ ၃၂၇၃ /၇-၈ / မပစ (၀၂၀)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ အောက်တိုဘာလ ၂၈ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့နှင့်Myanmar Tap Water Co;Ltdတို့မှ မော်လမြိုင်မြို့တွင် အတ္တရံမြစ်ရေကိုသန့်စင်ဖြန့်ဝေခြင်းလုပ်ငန်းအား B.O.T စနစ်ဖြင့် ဆောင်ရွက်မည့် စာချုပ်(မူကြမ်း)နှင့် မြေငှားစာချုပ်(မူကြမ်း)များအပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်များဖြင့် ပြန်လည်ပြင်ဆင်တင်ပြခြင်း**

ရည် ညွှန်း ချက်။ (၁) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ (၁၆-၁၀-၂၀၁၉)ရက်စွဲပါစာအမှတ်၊ ၂(၅)၄-၂၂/နပတ (၁၀၄၄)

(၂) မွန်ပြည်နယ်ဥပဒေချုပ်ရုံး၏ (၂၂-၁၀-၂၀၁၉)ရက်စွဲပါစာအမှတ်၊ ၁၀(၄)/၆/၂/ဥခရ(မွန်) (၁၃၉၇)

၁။ မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့နှင့် Myanmar Tap Water Co;Ltd တို့ မော်လမြိုင်မြို့တွင် အတ္တရံမြစ်ရေကိုသန့်စင်၍ ရေဖြန့်ဝေခြင်းလုပ်ငန်းအား B.O.T စနစ်ဖြင့် လုပ်ကိုင်ရန်အတွက် ချုပ်ဆိုမည့် B.O.T စာချုပ်(မူကြမ်း)နှင့် မြေငှားစာချုပ်(မူကြမ်း)တို့အပေါ်တွင် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်တောင်းခံခဲ့ရာတွင် ပြည်ထောင်စုရှေ့နေချုပ် ဥပဒေပုဒ်မ ၁၂၊ ပုဒ်မခွဲ(၅)နှင့်အညီ ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ သုံးသပ်အကြံပြုချက်များအား ရည်ညွှန်း(၁)ပါစာဖြင့် မွန်ပြည်နယ်ဥပဒေချုပ်ရုံးသို့ အကြောင်းကြားလာပါသည်။

၂။ မွန်ပြည်နယ်ဥပဒေချုပ်ရုံးမှ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သုံးသပ်အကြံပြုချက်များကို ရည်ညွှန်း(၂)ပါစာဖြင့် ပြည်နယ်အစိုးရအဖွဲ့ရုံးသို့ ပူးတွဲ(က)ပါအတိုင်း ပေးပို့တင်ပြခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့နှင့် Myanmar Tap Water Co;Ltd မှ မော်လမြိုင်မြို့တွင် အတ္တရံမြစ်ရေကို သန့်စင်၍ ရေဖြန့်ဝေခြင်းလုပ်ငန်းအား B.O.T စနစ်ဖြင့် လုပ်ကိုင်ရန်အတွက် ချုပ်ဆိုမည့် B.O.T စာချုပ်(မူကြမ်း)နှင့် မြေငှားစာချုပ်(မူကြမ်း)တို့ကို ပြည်ထောင်စုရှေ့နေချုပ်၏ ဥပဒေအကြံပြုချက်အတိုင်း ပြင်ဆင်ရေးသားပြီး ပူးတွဲ(ခ)ပါအတိုင်း တင်ပြအပ်ပါသည်။

ညွှန်ကြားရေးမှူး
နစ-၃၃၄၃၊ မြင့်အောင်

မိတ္တူကို

ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မွန်ပြည်နယ်၊ မော်လမြိုင်မြို့
ဝန်ကြီး၊ စည်ပင်သာယာရေးသာယာရေးဝန်ကြီးဌာန၊ မွန်ပြည်နယ်
ရုံးလက်ခံ/ မျှောစာတွဲ

noc noe 153

## B.O.T စာချုပ်(မူကြမ်း)အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံးသဘောထားမှတ်ချက်အရ ပြင်ဆင်ဖြည့်စွက်ချက်များကို နှိုင်းယှဉ်ဖော်ပြချက်

| စဉ် | ပြည်ထောင်စုရှေ့နေချုပ်ရုံးသဘောထားမှတ်ချက် | ပြင်ဆင်ဖြည့်စွက်ချက်နှင့် မှတ်ချက် |
|---|---|---|
| ၁။ | B.O.T စာချုပ်(မူကြမ်း)၏ စာချုပ်ဝင်များအပိုဒ်အား စာချုပ်ပုံစံကျနမှုရှိစေရန် မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်။ ထို့ပြင် စာချုပ်ဝင်များအပိုဒ်တွင် ကိုယ်စား ပြုသူ၏ အမည်၊ ရာထူးတို့အား ကွက်လပ်များဖြင့်ဖော်ပြထား၍ စာချုပ်ချုပ်ဆို ချိန်တွင် ပြည့်စုံစွာဖြည့်စွက်ပြီး ဖြစ်ရန်လိုအပ်ပါသည်။ | ရှေ့နေချုပ်ရုံး၏မှတ်ချက်နှင့်အညီပြင်ဆင်ပြီးဖြစ်ပါသည်။ ၎င်းပြင် စာချုပ်ဝင်များ၏ အမည်၊ ရာထူးတို့အား စာချုပ် လက်မှတ်မရေးထိုးမီ ပြည့်စုံစွာဖြည့်စွက်သွားမည် ဖြစ်ပါ သည်။ |
| ၂။ | B.O.T စာချုပ်(မူကြမ်း)အပိုဒ် 1.1 Definitions ခေါင်းစဉ်အောက်ရှိ Commercial Operation Date ကို ရေအသုံးပြုသူများထံသို့ ပေးပို့ရန် အနည်း ဆုံး ရက်(၃၀)ကြိုတင်၍ စီးပွားဖြစ် လုပ်ငန်းစတင်သည့်နေ့ကို အကြောင်းကြား မည်ဟုလည်းကောင်း၊ အပိုဒ် 8.1 တွင် ဖော်ပြထား ရာ အချိန်ကာလအား တိကျစွာ ဖော်ပြထားခြင်းမရှိသည်ကို တွေ့ရှိရပါသည်။ သို့ပါ၍ စာချုပ် လက်မှတ်ရေးထိုးပြီး နောက် အချိန်ကာလမည်မျှအတွင်း စီးပွားဖြစ် လုပ်ငန်းစတင်နိုင်မည်ကို တိကျစွာ သတ်မှတ်ဖော်ပြသင့်ပါသည်။ | ကုမ္ပဏီအနေဖြင့် Commercial Operation Date အား အတိအကျမသိရှိနိုင်ပါသဖြင့် ဖော်ပြထားခြင်းမရှိပါ။ သို့ရာတွင် အပိုဒ် ၇(၁)(၂)အရ Commercial Operation Date အား စာချုပ်လက်မှတ် ရေးထိုးပြီးနောက် (၃၇)လ အတွင်း သိရှိနိုင်မည်ဖြစ်ပါသည်။ |
| ၃။ | B.O.T စာချုပ်(မူကြမ်း)အပိုဒ် 1.1 Definitions ခေါင်းစဉ်အောက်ရှိ Land Procurement Plan အဓိပ္ပါယ်ဖွင့်ဆိုချက်တွင် ကုမ္ပဏီအား ရယူမည့် မြေတစ်ကွက်ချင်းစီ၏ အသေးစိတ်ကို နောက်ဆက်တွဲ(၂)တွင်ဖော်ပြထားသည့် ပုံစံနှင့် အပိုဒ် တွင် သတ်မှတ်ထားသည့်အတိုင်း ရေပေး ဝေရမည်ကို ဆိုလိုအကြောင်း ဖော်ပြ ထားသည်ကို တွေ့ရှိရပါသည်။ အပိုဒ် 4.1 ၌ အဆိုပါရယူ အသုံးပြုသည့်မြေတွင် MSDA မှ ကုမ္ပဏီသို့ငှားရမ်းမည့်မြေနှင့်အခွင့်အရေး မပါဝင်ကြောင်း ဖော်ပြထား ရာ နောက်ဆက်တွဲ(၂)အရ ကုမ္ပဏီမှရယူမည့်မြေကို MSDA မှ ကုမ္ပဏီသို့ မည်သည့်စည်းကမ်းချက်ဖြင့် အသုံးပြုခွင့်ပေးမည်ဆိုသည်မှာ ရှင်းလင်းမှု မရှိပါ သဖြင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်။ | ဤ စီမံကိန်းတွင် မြေအမျိုးအစား(၂)မျိုးပါဝင်ပါသည်။ အပိုဒ်၄(၁)အရ ကုမ္ပဏီမှ မြေကိုရယူသွားမည်ဖြစ်ပြီး အပိုဒ်၄(၂)အရ MSDA က ကုမ္ပဏီသို့ မြေကိုအသုံးပြုခွင့် ပေးသွားမည်ဖြစ်ပါသည်။ |
| ၄။ | B.O.T စာချုပ်(မူကြမ်း) အပိုဒ် 1.1. Definitions ခေါင်းစဉ်အောက်ရှိ ရေသန့်စင်သည့်အလုပ်ရုံဆိုသည့်အဓိပ္ပါယ်ရှင်းလင်းချက်တွင် (ရေသန့်စင်သည့်အလုပ်ရုံတည်ရှိရာမြေ အပါအဝင်) ဟု ဖော်ပြထားသော်လည်း စာချုပ်(မူကြမ်း) စည်းကမ်းချက်များတွင် အလုပ်ရုံတည်ရှိ ရာမြေနှင့် စပ်လျဉ်း၍ တည်နေရာ၊ လိပ်စာ၊ အကျယ်အဝန်းတို့ကို သတ်မှတ်ဖော်ပြထားခြင်း မရှိသည်ကို တွေ့ရှိရပါသဖြင့် စည်းကမ်းချက်တစ်ရပ် အနေဖြင့် သီးခြားခေါင်းစဉ်ဖြင့် သတ်မှတ်ဖော်ပြသင့် ပါသည်။ | ၎င်းသည် မြေငှားစာချုပ်နှင့် ချိတ်ဆက်ထားခြင်းဖြစ်၍ မြေငှားစာချုပ်တွင် အသေးစိတ်ဖော်ပြထားပြီးဖြစ်ပါသည်။ |
| ၅။ | B.O.T စာချုပ်(မူကြမ်း)အပိုဒ် 1.1 Definitions ခေါင်းစဉ်အောက်ရှိ Company's Rights နှင့် အပိုဒ် 2.1 တို့ရှိ Company's Righs ၏ အဓိပ္ပါယ်ဖွင့်ဆိုချက်တွင် စာချုပ်သက်တမ်း အတွင်း ကုမ္ပဏီသို့ သီးသန့်အခွင့်အရေး (exclusive | အဆိုပါအဓိပ္ပါယ်ဖွင့်ဆိုချက်မှာ B.O.T သဘောသဘာဝ အတိုင်း မဖြစ်မနေပါဝင်ရမည်ဖြစ်သောကြောင့် စာချုပ်ဝင် များ မူလသဘောတူ ညီထားပြီးဖြစ်ပါသည်။ MSDA အနေ ဖြင့် |

| | | |
|---|---|---|
| | right)ပေးရမည့်ကိစ္စရပ်များကို ဖေါ်ပြ ထားရာ MSDA အနေဖြင့် အဆိုပါအခွင့်အရေးများ ပေးအပ်နိုင်ခြင်း ရှိမရှိ သေချာစွာစိစစ် ပြီးမှသာ လက်ခံသင့်ပါသည်။ ထို့ပြင် အပိုဒ်2.4 တွင် အဆိုပါ exclusive right အဖြစ်ပေး ထားသော Company's Right နှင့်စပ်လျဉ်း၍ MSDA အနေဖြင့် ငွေကြေးတစ်စုံတစ်ရာ တောင်းဆိုခွင့် မရှိကြောင်းဖေါ်ပြထားရာ ဌာနမှလက်ခံနိုင်ခြင်း ရှိမရှိ ပြန်လည်စိစစ် သင့်ပါသည်။ | ရေကုဗမီတာ(၁)မီတာ အတွက် ရေခွန်ကောက်ခံ ရရှိ တိုင်း ကျပ်ငွေ ၅ ကျပ်တိတိ ရရှိမည်ဖြစ် ပါသည်။ ၎င်းပြင် စာချုပ်သက်တမ်းကုန်ဆုံးသွားပါက စီမံကိန်းစီမံကိန်းတစ်ခုလုံးအာMSDA သို့လွှဲအပ်ပေးမည်ဖြစ်သည်။ အပိုဒ် ၁၁ အရ သဘောတူပြီး ဖြစ်ပါသည်။ |
| ၆။ | B.O.T စာချုပ်(မူကြမ်း)အပိုဒ်2.1 Definitions ဒုတိယစာပိုဒ်တွင် ခေါင်းစဉ်အောက်ရှိ Commercial Operation Date စတင်ပြီးနောက် Service Areas အတွင်း ရေဖြန့်ဝေခြင်း မပြုရကြောင်းဖေါ်ပြထားရာ MSDA အနေဖြင့် သတိပြုသင့်ပါသည်။ | စာချုပ်ဝင်များသဘောတူညီပြီးဖြစ်ပါသည်။ ကုမ္ပဏီသည် အပိုဒ် ၅(၃)(၂)(၃)အရ အရည်အသွေးပြည့်ဝသော ရေများကို ဖြန့်ဝေရမည့်တာဝန်ရှိပါသည်။ သန့်စင်ရေများကို WHO စံချိန်စံညွှန်းနှင့်အညီ ထုတ်လုပ်ဖြန့်ဖြူးသွားမည်ဖြစ်သည်။ သို့ပါ၍ MSDA နှင့် ကုမ္ပဏီတို့အနေဖြင့် ရေပိုက်လိုင်းတစ်ခုတည်း အသုံးပြု၍ ဖြန့်ဝေခြင်းပြုလုပ်နိုင်မည်မဟုတ်ပေ။ |
| ၇။ | B.O.T စာချုပ်(မူကြမ်း)အပိုဒ်2.2 တွင် ကုမ္ပဏီအနေဖြင့် ဤသဘောတူစာချုပ်အား ပြဋ္ဌာန်း ချက်များနှင့်အညီ လိုအပ်ပါက (where necessary) ဒေသဆိုင်ရာအာဏာပိုင်များ၏ အကူ အညီဖြင့် စာချုပ်ကိုအကောင်အထည်ဖေါ်ရမည်ဟုဖေါ်ပြထားရာ ရှင်းလင်းမှုမရှိပါသဖြင့် ဌာနမှ ပြန်လည် စိစစ်သင့်ပါသည်။ | B.O.T ၏ အချက်အချကျသော သဘောတရားတစ်ရပ် ဖြစ်ပြီး စာချုပ်သဘောအရ MSDA က grantor ဖြစ်ပြီး ကုမ္ပဏီအား လိုအပ်ပါက ကူညီပေးရန် ရေးသားထားခြင်း ဖြစ်ပါသည်။ |
| ၈။ | B.O.T စာချုပ်(မူကြမ်း)အပိုဒ်2.5 စာချုပ် (သို့မဟုတ်) By Law အရ သတ်မှတ်ဖေါ်ပြချက်မှ တပါး ကုမ္ပဏီသည် ၎င်း၏ဆောင်ရွက်ချက်များနှင့်စပ်လျဉ်း၍ MSDA ၏ ခွင့်ပြုချက် သဘောတူညီချက်ရယူရန်မလိုအပ်ကြောင်းနှင့် MSDA သို့ အကြောင်းကြား ဆောင်ရွက် မည်ဖြစ်ကြောင်း ဖေါ်ပြထားရာ အနေဖြင့် လက်ခံရန်သင့်မသင့် ပြန်လည်စိစစ် သင့်ပါသည်။ | ကုမ္ပဏီအနေဖြင့် စာချုပ် သို့မဟုတ် ဥပဒေကြောင်းအရ သတ်မှတ်ဖေါ်ပြချက်များကို လိုက်နာရမည် ဖြစ်ပါသည်။ |
| ၉။ | B.O.T စာချုပ်(မူကြမ်း)အပိုဒ် 2.6 တွင် စီမံကိန်း သို့မဟုတ် Facilities များအပေါ်တွင် ထိခိုက်မှုဖြစ်စေမည့်ကိစ္စရပ်တစ်ရပ်ရပ်ကို ဆောင်ရွက်ခြင်း (သို့မဟုတ်) အခြားသူတစ်ဦးဦးမှ ပြုလုပ်ရန်ဆောင်ရွက်သည်ကို ခွင့်ပြုခြင်းမှ ရှောင်ကြဉ်ရန် သဘောတူညီကြောင်းဖေါ်ပြထားရာ MSDA အနေဖြင့် သတိပြုသင့်ပါသည်။ | MSDA အနေဖြင့် ကုမ္ပဏီအား စီမံကိန်းအောင်မြင်စွာ အကောင်အထည်ဖေါ်နိုင်ရန်အတွက် ကူညီပေးရန် ဖြစ်ပါသည်။ |
| ၁၀။ | B.O.T စာချုပ်(မူကြမ်း)အပိုဒ် 4.2.4 Local Distribution Network ဒီဇိုင်းရေးဆွဲခြင်း ဆောင်ရွက်ရန် ကုမ္ပဏီအတွက် မြေအသုံးချမှုအခွင့် အရေးကို MSDA အနေဖြင့် ၎င်း၏ ကုန်ကျစရိတ်ဖြင့် ရယူပေးမည်ဖြစ်ကြောင်း ဖေါ်ပြထားရာ MSDA အနေဖြင့် လက်ခံနိုင် ခြင်း ရှိမရှိ ပြန်လည်စိစစ်သင့်ပါသည်။ ထို့ပြင် ကုမ္ပဏီသည်စီမံကိန်း ပြီးစီးရန်အတွက် လိုအပ်သော အချိန်ဇယားသတ်မှတ်ချက်ရှိရမည်ဟု ဖေါ်ပြထားရာ စီမံကိန်းပြီးစီးရန် သတ်မှတ်ရမည့် အချိန်ကာလကို ကုမ္ပဏီမှသတ်မှတ်သည့်သဘော သက်ရောက်နေပါသဖြင့် MSDA နှင့် ညှိနှိုင်း သတ်မှတ်ရန် သင့်မသင့် ပြန်လည်စိစစ်သင့်ပါသည်။ | MSDA အနေဖြင့် ကုမ္ပဏီအား မြေအသုံးပြုခွင့်ရရှိရန် တာဝန်ရှိပါသည်။ |

| | | |
|---|---|---|
| ၁၁။ | B.O.T စာချုပ်(မူကြမ်း) အပိုဒ် 5.2.2တွင် စာချုပ်သက်တမ်းကာလနှင့် သက်တမ်းတိုးသည့် ကာလကုန်ဆုံးသည့်တိုင်အောင် ကုမ္ပဏီက တပ်ဆင်ခဲ့သည့်ပစ္စည်းများသည် ကုမ္ပဏီ ပိုင်ပစ္စည်းများဖြစ်ကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ စာချုပ်သက်တမ်း ကုန်ဆုံး ပါက အဆိုပါ ပစ္စည်းများကို MSDA သို့လွှဲပြောင်းပေးပါက မည်သို့လွှဲပြောင်းမည်ဆိုသည့် စည်းကမ်းချက် အား ထည့်သွင်းသင့်သည်ဟု သဘောရရှိပါသည်။ | B.O.T စာချုပ်သဘောအရ ကုမ္ပဏီအနေဖြင့် တပ်ဆင်ခဲ့သည့်ပစ္စည်းများကို သက်တမ်းကုန်ဆုံးသည့်နေ့ တွင်ရှိသမျှ လွှဲပြောင်းပေးရမည်ဖြစ်ပါသည်။ |
| ၁၂။ | B.O.T စာချုပ်(မူကြမ်း) အပိုဒ် 5.3.1 တွင် MSDA ၏ တာဝန်ဝတ္တရားများကိုဖော်ပြထားရာ အဆိုပါစည်းကမ်းချက်များနှင့်စပ်လျဉ်း၍ ဌာနမှလိုက်နာဆောင်ရွက်လက်ခံနိုင်ခြင်းရှိမရှိ ကြိုတင်စိစစ်သင့်ပါသည်။ ထို့ပြင် အပိုဒ် 5.3.1(5) တွင် ကုမ္ပဏီအား ရေပေးဝေမှုနှင့်စပ်လျဉ်း ၍ အသုံးပြုနေသောပစ္စည်းများကို အခကြေးငွေမတောင်းခံဘဲ exclusive right ဖြင့် အသုံး ပြုခွင့် ပေးရမည်ဖြစ်ကြောင်းဖော်ပြထားရာ ဌာနမှ လက်ခံနိုင်ခြင်းရှိမရှိ ပြန်လည်စိစစ် သင့်ပါသည်။ | MSDA အနေဖြင့် အာဏာပိုင်အဖွဲ့အစည်းတစ်ရပ် ဖြစ်သည်နှင့်အညီ ဤတာဝန်များကို လိုက်နာရမည်ဖြစ်ပါသည်။ စာချုပ်ဝင်များ သဘောတူညီပြီးဖြစ်ပါသည်။ ၎င်းတို့အား အပိုဒ် ၁၁(၄)နှင့် အပိုဒ် ၁၁(၅)။ ၎င်းအပြင် အပိုဒ်၁၁(၇)နှင့် အညီ MSDA ဝန်ထမ်းများကိုလည်း လုပ်ငန်းကျွမ်းကျင်မှု သင်တန်းများများဖွင့်လှစ်သင်ကြားပေးမည်ဖြစ်ပါသည်။ |
| ၁၃။ | B.O.T စာချုပ်(မူကြမ်း) အပိုဒ် 5.3.1(6) နှင့်(10)တို့တွင် သက်ဆိုင်သည့် နည်းဥပဒေများ သို့မဟုတ် စည်းမျဉ်းများ၊ ရေအသုံးပြုခြင်းနှင့်ပတ်သက်သော စည်းမျဉ်းစည်းကမ်းများ (ရေခွန် နှုန်းထားညှိနှိုင်းခြင်း)တို့နှင့်ပတ်သက်၍ MSDA ထုတ်ပြန်၍ ကာကွယ်ပေးရမည် ဖြစ်ကြောင်း ဖော်ပြထားရာ ဌာနအနေဖြင့် ထိုသို့ ဆောင်ရွက်နိုင်ခွင့်ရှိမရှိ ပြန်လည်စိစစ် သင့်ပါသည်။ | ရေကုန်ကြမ်းနှင့် ရေအရင်းအမြစ်ကိုကာကွယ်ရန်နှင့် သန့်စင်ရေ အရည်အသွေးကိုထိန်းသိမ်းရန်အတွက် ပြဋ္ဌာန်း ထားခြင်းဖြစ်ပါသည်။ |
| ၁၄။ | B.O.T စာချုပ်(မူကြမ်း) အပိုဒ် 5.3.1(13)စည်းကမ်းချက်နှင့်စပ်လျဉ်း၍ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနနှင့် ကြိုတင်ညှိနှိုင်းဆောင်ရွက်ထားရန် လိုအပ်ပါသည်။ | ကြိုတင်ညှိနှိုင်းဆောင်ရွက်ပါမည်။ |
| ၁၅။ | B.O.T စာချုပ်(မူကြမ်း)အပိုဒ် 6.1.4တွင်စာချုပ်သက်တမ်းကာလအတွင်းလိုအပ်သော သဘောတူညီချက်များနှင့်စပ်လျဉ်း၍ စည်းကမ်းချက်များကိုဖော်ပြထားပြီး အဆိုပါ စည်းကမ်းချက်များနှင့်စပ်လျဉ်း၍ ကုမ္ပဏီအကျိုးစီးပွားထိခိုက်လာပါက MSDA နှင့် ကုမ္ပဏီ တို့အကြား အဆိုပါကိစ္စရပ်ကို ဖြေရှင်းရန်သဘောတူကြောင်း၊ ထိုသို့ဖြေရှင်း၍မရပါက ကုမ္ပဏီအနေဖြင့် စာချုပ်ကိုရပ်စဲရန် အကြောင်းကြားစာပေးပို့နိုင်ကြောင်းဖော်ပြထားရာ MSDA အနေဖြင့် လက်ခံနိုင်ခြင်းရှိမရှိ ပြန်လည်စိစစ်သင့်ပါသည်။ | MSDA အနေဖြင့် အာဏာပိုင်အဖွဲ့အစည်းဖြစ်ပြီး B.O.T သဘောအရလည်း ဤတာဝန်များကို လိုက်နာရန်ဖြစ်၍ သဘောတူညီထားပြီးဖြစ်ပါသည်။ |
| ၁၆။ | B.O.T စာချုပ်(မူကြမ်း) အပိုဒ် 6.2.2တွင် MSDA သည် စီမံကိန်းအတွင်း တင်သွင်းလာသောပစ္စည်းများ အကောက်ခွန်ကင်းလွတ်ခွင့် ရရှိရန်အတွက် အချိန်မီဆောင်ရွက်ပေးရမည် ဟုဖော်ပြထားပြီး အခွန်ဌာနအပါအဝင် အခြားဝန်ကြီးဌာနများနှင့်ပူးပေါင်းဆောင်ရွက်ပေး ရန်ဖော်ပြထားပါသဖြင့် သက်ဆိုင်ရာဝန်ကြီးဌာနများနှင့် ကြိုတင်ညှိနှိုင်းဆောင်ရွက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။ | MSDA အနေဖြင့် တတ်နိုင်သမျှ အကူအညီပေးရန် သဘောတူညီထားပါသည်။ |

| | | |
|---|---|---|
| ၁၇။ | B.O.T စာချုပ်(မူကြမ်း) အပိုဒ် 7.1.4 နှင့် အပိုဒ်7.1.5တို့တွင် Commercial Operation Date သတ်မှတ်ခြင်းနှင့်စပ်လျဉ်း၍ ဖော်ပြချက်များသည် ရှင်းလင်းတိကျမှုမရှိသည့် အတွက် Commercial Operation Date စတင်မည့်ရက်အား ရှင်းလင်းတိကျစွာ ဖော်ပြသင့်ပါသည်။ ဌာနမှပြန်လည်စိစစ်ရန်ဖြစ်ပါသည်။ | အပိုဒ်(၂)တွင်ရှင်းလင်းဖော်ပြထားသည့်အတိုင်းဖြစ်ပါသည်။ |
| ၁၈။ | B.O.T စာချုပ်(မူကြမ်း)တွင် Commerccial Operation Date နှင့်စပ်လျဉ်း၍ အပိုဒ်7 Construction ခေါင်းစဉ်အောက်ရှိစည်းကမ်းချက်များတွင် အဆောက်အဦ ဆောက်လုပ် ခြင်းဟုလည်းကောင်း၊ အပိုဒ်8 Commence of Treatment Water Production တွင် ရေသန့်စင် ထုတ်လုပ်မှုကို စတင်ခြင်းဟုလည်းကောင်း ဖော်ပြထားရာ Commercial Operation Date သတ်မှတ်သည့်စည်းကမ်းချက်များ ကွဲလွဲမှုရှိနေသည်ဟု ယူဆပါသဖြင့် ဌာနမှပြန်လည် စိစစ် သင့်ပါသည်။ | အပိုဒ်(၂)တွင်ရှင်းလင်းဖော်ပြထားသည့်အတိုင်းဖြစ်ပါသည်။ |
| ၁၉။ | B.O.T စာချုပ်(မူကြမ်း)7.1.2 Commercial Operation Date ကို စာချုပ်လက်မှတ်ထိုး သည့် နေ့မှ(၃၇)လအတွင်း စတင်ရမည်ဟုလည်းကောင်း၊ အပိုဒ် 11.1တွင် တည်ဆောက်ရေး ကာလကို (MIC) ခွင့်ပြုမိန့်ထုတ်ပြီးသည့်နောက် လပေါင်း(၃၀)ဟုလည်းကောင်းဖော်ပြထား ရာ အချိန် ကာလသတ်မှတ်ချက်များကိုက်ညီမှုရှိစေရေးအတွက် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်။ | အပိုဒ်(၂)တွင်ရှင်းလင်းဖော်ပြထားသည့်အတိုင်းဖြစ်ပါသည်။ |
| ၂၀။ | B.O.T စာချုပ်(မူကြမ်း) အပိုဒ် 11.1 တွင် သက်တမ်းအား မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှု ကော်မရှင်(MIC)မှခွင့်ပြုမိန့်ရရှိသည့်နေ့မှ တည်ဆောက် ရေးကာလ လပေါင်း(၃၀)မပါဝင်ဘဲ နှစ်ပေါင်း (၃၀)ဟု ဖော်ပြထားပါသည်။ အဆိုပါသက်တမ်းမှာ လုပ်ငန်းဆောင်ရွက်မှု သက်တမ်း (သို့မဟုတ်) စာချုပ်သက်တမ်းမည်သည်ကို ဆိုလိုကြောင်း ရှင်းလင်းမှုမရှိပါ။ လုပ်ငန်းဆောင် ရွက်မှု သက်တမ်းနှင့် စာချုပ်သက်တမ်းတို့ကို သီးခြားခေါင်းစဉ်များဖြင့် ရှင်းလင်းစွာဖော်ပြရန် လိုအပ် ပါသည်။ လုပ်ငန်းကာလသက်တမ်းသည် စာချုပ်သက်တမ်းအတွင်း ကျရောက်ရန် လိုအပ်ပါ သည်။ | စာချုပ်သက်တမ်းမှာ Commercial Operation Date မှ ရေတွက်ကနှစ်ပေါင်း(၃၀)ဖြစ်ပါသည်။ Commercial Operation Date မှာ ဆောက်လုပ်ရေးကာလ ကုန်ဆုံးပြီး နောက်မှ သာလျှင် ရေတွက်နိုင်မည်ဖြစ်၍ ဆောက်လုပ်ရေး ကာလကိုနှုတ်ပယ်ထားခြင်းဖြစ်ပါသည်။ |
| ၂၁။ | B.O.T စာချုပ်(မူကြမ်း)တွင် ကုမ္ပဏီအနေဖြင့် စာချုပ်သက်တမ်းတိုးရန်ဦးစွာအခွင့်အရေး (preemptive right)ရှိကြောင်းဖော်ပြထားပါသည်။ ငှားရမ်းသည့်မြေငှားရမ်းကာလ (သို့မဟုတ်) မြေအသုံးပြုခွင့်ကာလတိုးမြှင့်ခြင်းနှင့်စပ်လျဉ်း၍ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂၌ "ကော်မရှင်သည် ပုဒ်မ ၃၁အရခွင့်ပြုထားသောသက်တမ်းကုန်ဆုံးပြီး နောက် ဆက်လက်လုပ်ကိုင်လိုသောရင်းနှီးမြှုပ်နှံသူအား ရင်းနှီးမြှုပ်နှံမှုပမာဏနှင့် လုပ်ငန်းအမျိုး အစားပေါ်မူတည်၍ တစ်ဆက်တည်းသက်တမ်းတိုးခွင့်(၁၀)နှင့် ယင်းသက်တမ်းကုန်ဆုံးပြီး ထပ်မံ၍ (၁၀)နှစ်သက်တမ်းတိုးမြှင့်ပေးနိုင်သည်"ဟု | ကုမ္ပဏီအနေဖြင့်ဥပဒေအတိုင်းလိုက်နာရမည်ဖြစ်ပြီး အကယ်၍လိုအပ်လာပါက MIC ခွင့်ပြုချက်နှင့်အညီ သက်တမ်းတိုးခွင့်ပြုချက်ရရှိရန်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ |

| | | |
|---|---|---|
| | ဖော်ပြထားရာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ သက်တမ်းတိုးမြှင့်ရန် လိုအပ်ပါသည်။ | |
| ၂၂။ | B.O.T စာချုပ်(မူကြမ်း)အပိုဒ် 12.1.1(d) နှင့် 12.2.1(a) တို့တွင် materially breaches ဟု ဖော်ပြထားရာ materially breaches သည် မည်သည့်ကိစ္စရပ်များကို ဆိုလိုခြင်းဖြစ်ကြောင်း သတ်မှတ်ဖော်ပြသင့်ပါသည်။ ဌာနမှပြန်လည်စိစစ်သင့်ပါသည်။ | Materially breaches ဆိုသည်မှာ သာမန်စာချုပ် ဖေါက်ဖျက်ခြင်းကိုဆိုလိုပြီး စာချုပ်ပါစည်းကမ်းချက်များကို လိုက်နာရန်ပျက်ကွက်ခြင်းပင်ဖြစ်ပါသည်။ |
| ၂၃။ | B.O.T စာချုပ်(မူကြမ်း) အပိုဒ် 12.1.1(a)တွင် "The Company fail to commence the works within ninety (90)days---from the such failure is not casused by any Force Majeure or Exceptional Event" ဟူ၍ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ ကုမ္ပဏီမှ ဌာနသို့ အကြောင်းကြားသည့်နေ့မှ ရက်ပေါင်း(၉၀)အတွင်း လုပ်ငန်းစတင်ရန် ပျက်ကွက်လျှင်ဟု သဘောသက်ရောက်နေသဖြင့် ရှင်းလင်းမှုမရှိပါသောကြောင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်။ | ၄င်းသည်မလွန်ဆန်နိုင်သောဖြစ်ရပ်အတွက်သတ်မှတ် ပြဋ္ဌာန်းထားခြင်းဖြစ်ပြီး ရက်ပေါင်း(၉၀)မှာလည်း အတိအကျ သတ်မှတ်ပြီးဖြစ်ပါသည်။ အပိုဒ်၇(၁)(၂)ကိုရည်ညွှန်းပါသည်။ |
| ၂၄။ | စာချုပ်(မူကြမ်း) အပိုဒ် 12.1.2တွင်သတ်မှတ်ကာလမကုန်ဆုံးမီ အပိုဒ် 12.1.1 တွင်ဖော်ပြ ထားသောအခြေအနေများကို ကုစားခဲ့ခြင်းမရှိလျှင် MSDA အနေဖြင့် တည်ဆဲဥပဒေများနှင့် အညီ ကုမ္ပဏီအပေါ် ဥပဒေကြောင်းအရ အရေးယူဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြထား ပါသည်။ တဖန် အပိုဒ် 12.2.2 သတ်မှတ်ထားသော ကာလ မကုန်ဆုံးမီ အပိုဒ် 12.2.1 ပါအခြေအနေများ ကို မကုစားခဲ့လျှင် ကုမ္ပဏီအနေဖြင့် ယခုစာချုပ်ကို ရပ်စဲနိုင်ကြောင်း ဖော်ပြထားပါသည်။ သို့ဖြစ် ရာ ကုစားမှုမရှိသည့်အခြေအနေများအပေါ်တွင် MSDA နှင့် ကုမ္ပဏီတို့အကြား ရရှိမည့် အခွင့် အရေးများမှာ မတူညီသည့်အပြင် အပိုဒ် 12.2.2 အရ စာချုပ်ရပ်စဲသည့်အခါ MSDA ဘက်မှ ပေးလျော်ရမည့်လျော်ကြေးငွေများကို ဖော်ပြထား သည်ကို တွေ့ရှိရပါသည်။ သို့ပါ၍ အပိုဒ် 12.1.2 အပိုဒ် 12.2.2 နှင့် အပိုဒ် 12.2.3 တို့ပါ စည်းကမ်းချက်တို့အား ဌာနမှပြန်လည်စိစစ်ရန် ဖြစ်ပါ သည်။ | ၄င်းမှာ သာမန်ကျင့်သုံးနေကျအတိုင်းဖြစ်ပြီး ဖေါက်ဖျက်သူက လျော်ကြေးပေးရန်ဖြစ်သည်။ |
| ၂၅။ | B.O.T စာချုပ်(မူကြမ်း) အပိုဒ် 12.2.3တွင် MSDA အနေဖြင့် စာချုပ်ရပ်စဲပါက ကုမ္ပဏီသို့ လျော်ကြေးပေးရမည်ဖြစ်ကြောင်းနှင့် အဆိုပါလျော်ကြေးပမာဏကို ကုမ္ပဏီမှခန့်အပ်သော လွတ်လပ်သောစာရင်းစစ်(Independent Auditor)က ဆုံးဖြတ်မည်ဖြစ်ကြောင်းဖော်ပြ ထားရာ ဌာနအနေဖြင့် လက်ခံရန် သင့်မသင့် ပြန်လည်စိစစ်သင့်ပါသည်။ | ၄င်းမှာသာမန်ကျင့်သုံးနေကျအတိုင်းဖြစ်ပြီး ဖေါက်ဖျက်သူက လျော်ကြေးပေးရန်ဖြစ်သည်။ လျော်ကြေးငွေများကိုတွက်ချက် ရန်အတွက် Independent Auditor ခန့်အပ်ဆုံးဖြတ် စေခြင်းမှာလည်းမျှတမှုရှိပါသည်။ |
| ၂၆။ | B.O.T စာချုပ်(မူကြမ်း)အပိုဒ် 13.1(f)တွင် ရေအရင်းအမြစ်လျော့နည်းလာခြင်း၊ အပိုဒ်ခွဲ(g) တွင် MSDA မှခွင့်ပြုမိန့်များ၊ လိုင်စင်များဆောင်ရွက်မှုမပေးနိုင်ခြင်း သို့မဟုတ် ကြန့်ကြာ ခြင်း၊ အပိုဒ်ခွဲ (h)တွင် အား MSDA မှ အနှောင့်အယှက်မရှိစေရန် ကာကွယ်သော်လည်း ပစ္စည်း ယိုယွင်းခြင်း၊ အပိုဒ်ခွဲ(i)တွင် ရေအရင်းအမြစ်၏ စံချိန်စံညွှန်းမမီခြင်းကိစ္စများအား ထည့်သွင်း သတ်မှတ်ထားရာ | သဘောတူညီပြီးဖြစ်ပါသည်။ |

| | | |
|---|---|---|
| | လုပ်ငန်းလိုအပ်ချက်အရ အဆိုပါအချက်များအား Exceptional Event အဖြစ် ထည့်သွင်းသတ်မှတ်ရန် သင့်မသင့် ပြန်လည်စိစစ်သင့်ပါသည်။ | |
| ၂၇။ | B.O.T စာချုပ်(မူကြမ်း) အပိုဒ် 13.3တွင် "---Within a reasonable time following the date of termination---" ဖော်ပြထားရာ တိကျသောအချိန်ကာလသတ်မှတ်ဖော်ပြရန် လိုအပ်ပါသည်။ | အချိန်အတိအကျမဖော်ပြနိုင်ပါ။ အဘယ်ကြောင့်ဆိုသော် Force Majeure and Exceptional Events သဘောသဘာဝအလိုက် အပေါ်တွင် တည်မှီနေသောကြောင့် ဖြစ်ပါသည်။ |
| ၂၈။ | B.O.T စာချုပ်(မူကြမ်း) အပိုဒ် 13.5.1(b)တွင် "--- it is uncertain as to when the Force Majeure or Exception will be over ---" ဟု ဖော်ပြထားပါသည်။ ထိုသို့ဖော်ပြ မည့်အစား "မလွန်ဆန်နိုင်သော ဖြစ်ရပ်အား တစ်ဆက်တည်း( )လ ထက်ကျော်လွန်ဖြစ်ပွား သည့်အခါ" ဟု ဖော်ပြသင့်ပါသည်။ | ရက်ပေါင်း(၉၀)အတိအကျဖော်ပြပြီးဖြစ်ပါသည်။ |
| ၂၉။ | B.O.T စာချုပ်(မူကြမ်း) အပိုဒ် 13.5.2 တွင် သက်တမ်းမကုန်ဆုံးခင် စာချုပ်ရပ်စဲခဲ့လျှင် MSDA အနေဖြင့် ကုမ္ပဏီထံမှ Facilitiesများကို လက်ရှိအခြေအနေအတိုင်း အပိုဒ် 12.2.3(1) နှင့် (2) တို့အရ ပေးလျော်ရမည့်လျော်ကြေးနှင့်တူညီသောတန်ဖိုးဖြင့် ဝယ်ယူရမည်ဖြစ်ကြောင်း ဖော်ပြ ထားရာ MSDA အနေဖြင့် အဆိုပါအချက်အား လက်ခံနိုင်ခြင်း ရှိမရှိ ပြန်လည်စိစစ်သင့်ပါသည်။ | ဤသို့သော စာချုပ်ရပ်စဲခြင်းမျိုးသည် Force Majeure and Exceptional Events ကြောင့်ဖြစ်ပြီး ကုမ္ပဏီ၏ လုပ်ဆောင်မှုကြောင့်မဟုတ်ပါ။ |
| ၃၀။ | B.O.T စာချုပ်(မူကြမ်း)အပိုဒ် 15 Notices တွင် အကြောင်းကြားပေးပို့ဆက်သွယ်ရမည့် လိပ်စာကို စာချုပ်ချုပ်ဆိုသည့်အချိန်တွင် ပြည့်စုံစွာဖြည့်စွက်ပြီးဖြစ်ရန်လိုအပ်ပါသည်။ | စာချုပ်မချုပ်ဆိုမီ လိပ်စာများကို ပြည့်စုံစွာဖြည့်စွက်သွားမည် ဖြစ်သည်။ |
| ၃၁။ | B.O.T စာချုပ်(မူကြမ်း)အပိုဒ် 16.3 တွင် "Any Dispute or difference --- UNCITRAL Arbitration Rules by (3) three arbitrators" ဟုလည်းကောင်း၊ အပိုဒ် 16.3 အဋ္ဌမမြောက် စာကြောင်းတွင်မူ "except the termination shall be Region or State wher the Facilites are located" ဟုလည်းကောင်း ဖော်ပြထားပါသည်။ အပိုဒ် 16.1နှင့် 16.2 တို့အရ မဖြေရှင်းနိုင်ပါက UNCITRAL Arbitration Rules အရ ဆောင်ရွက်မည်ဟုဖော်ပြထားပြီး အဋ္ဌမမြောက်စာကြောင်းတွင်မူ Facilities တည်ရှိသော တိုင်းဒေသကြီး (သို့) ပြည်နယ်အတွင်း ရှိ တည်ဆဲဥပဒေအတိုင်းတာ ဆောင်ရွက်ရမည်ဟုဖော်ပြထားရာ စည်းကမ်းချက်ချင်းညီညွတ်မှု မရှိဟု ယူဆပါသဖြင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်။ | ရှေ့နေချုပ်ရုံးသဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ပြီး ဖြစ်ပါသည်။ |
| ၃၂။ | B.O.T စာချုပ်(မူကြမ်း)တွင် မြစ်ရေသန့်စင်ဖြန့်ဝေခြင်းလုပ်ငန်းအား လုပ်ကိုင်ဆောင်ရွက် မည့် လုပ်ငန်း၏ တည်နေရာ၊ အကျယ်အဝန်း၊ လိပ်စာအပြည့်အစုံတို့ကို သီးခြားခေါင်းစဉ်ဖြင့် ထည့်သွင်းသတ်မှတ်ဖော်ပြသင့်ပါသည်။ | နောက်ဆက်တွဲ(၁)တွင်ဖော်ပြထားပြီးဖြစ်ပါသည်။ |
| ၃၃။ | B.O.T စာချုပ်(မူကြမ်း)တွင် လုပ်ငန်းအာမခံကြေး(Performance Bank Guarantee) နှင့်စပ် လျဉ်းသည့်စည်းကမ်းချက်မပါရှိကြောင်းတွေ့ရှိရပါသည်။ လုပ်ငန်းအာမခံကြေး ရယူရန် သင့်မသင့် ဌာနမှ သတိပြုဆောင်ရွက်သင့်ပါသည်။ | စာချုပ်အရ ကုမ္ပဏီသည် စီမံကိန်းတစ်ခုလုံးအတွက် ငွေအရင်းအနှီးများကိုမိမိတစ်ဦးတည်းမှစိုက်ထုတ်သွားရမည် ဖြစ်ပြီး MSDA အနေဖြင့် မည်သည့်ငွေကြေးမျှထည့်ဝင်ရန် တာဝန်မရှိပါ။ သို့ပါ၍ လုပ်ငန်းအာမခံကြေး(Performance Bank Guarantee)ကို MSDA မှ တောင်းခံခြင်းမပြုရန် သဘောတူညီထားပြီးဖြစ်ပါသည်။ |

| | | |
|---|---|---|
| ၃၄။ | B.O.T စာချုပ်(မူကြမ်း)တွင်Land Use Premium ကြေးရယူထားခြင်းမရှိကြောင်းတွေ့ရှိရ ပါသည်။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၁၁စ၌ "အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းပိုင် မြေများကို ငှားရမ်းရာတွင် မြေအသုံးပြုမှုပရီမီယံကြေးကို သက်ဆိုင်ရာ အစိုးရဌာန၊ အစိုးရ အဖွဲ့အစည်းက ရင်းနှီးမြှုပ်နှံသူထံမှ တောင်းခံနိုင်သည်"ဟု ပြဋ္ဌာန်းထားကြောင်း သိရှိနိုင်ရန် အတွက် ဖော်ပြအပ်ပါသည်။ | မြေငှားစာချုပ်အရ မြေငှားရမ်းခများရယူရန် သဘောတူညီထားပြီးဖြစ်ပါသည်။ |
| ၃၅။ | B.O.T စာချုပ်(မူကြမ်း)၏ စာချုပ်ဝင်များအပိုဒ်ရှိဌာနအမည် The Mon State Development Affairs under the authority of the Mon State Government, the Republic of the Union of Myanmar ဟုလည်းကောင်း၊ မြေငှားစာချုပ်(မူကြမ်း)၏ စာချုပ်ဝင်များအပိုဒ်ရှိ ဌာန၏အမည်၊ Mawlamyine Township Development Committee, Ministry of Development, as empowered by Mon State Government the Republic of the Union of Myanmar ဟုလည်းကောင်း ဖော်ပြထား ရာ စာချုပ်ဝင် တူညီပါက စာချုပ်ဝင်အမည်အား အင်္ဂလိပ်အသုံးအနှုန်းဖြင့်ဖော်ပြရာတွင် တူညီမှုရှိစေရေးနှင့် မှန်ကန်မှုရှိစေရေးတို့အတွက် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်။ | ရှေ့နေချုပ်ရုံးသဘောထားမှတ်ချက်နှင့်အညီ စာချုပ်ဝင်များ၏ အမည်များကို ကိုက်ညီမှုရှိစေရန် ပြင်ဆင်ရေးသားထားပြီး ဖြစ်ပါသည်။ |
| ၃၆။ | B.O.T စာချုပ်(မူကြမ်း)တွင် ကွက်လပ်များပါရှိရာ စာချုပ်ချုပ်ဆိုချိန်တွင် ယင်းကွက်လပ် များအား ပြည့်စုံစွာဖြည့်စွက်ပြီးဖြစ်ရန် လိုအပ်ပါသည်။ | ပြည့်စုံစွာဖြည့်စွက်ပါမည်။ |
| ၃၇။ | လိုအပ်သောနေရာများတွင် မင်နီဖြင့် ပြင်ဆင်ဖြည့်စွက်ပေးလိုက်ပါသည်။ | သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ပြီးဖြစ်ပါသည်။ |

## မြေငှားစာချုပ်(မူကြမ်း)အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံးသဘောထားမှတ်ချက်အရ ပြင်ဆင်ဖြည့်စွက်ချက်များကို နှိုင်းယှဉ်ဖော်ပြချက်

| စဉ် | ပြည်ထောင်စုရှေ့နေချုပ်ရုံးသဘောထားမှတ်ချက် | ပြင်ဆင်ဖြည့်စွက်ချက်နှင့် မှတ်ချက် |
|---|---|---|
| ၁။ | မြေငှားစာချုပ်(မူကြမ်း)၌ဖော်ပြထားသည့်အချို့စည်းကမ်းချက်များတွင် B.O.T စာချုပ် (မူကြမ်း)ပါအတိုင်းဟု ဖော်ပြထားရာ မြေငှားစာချုပ်(မူကြမ်း)၌အဆိုပါ အချက်များအား B.O.Tစာချုပ်(မူကြမ်း)တွင် ဖော်ပြပါရှိသည့်အတိုင်း ပြည့်စုံစွာထည့်သွင်းဖော်ပြရန်ဖြစ်ပါ သည်။ ဌာနမှပြန်လည်စိစစ်သင့်ပါသည်။ | B.O.T စာချုပ်(မူကြမ်း)နှင့် မြေငှားစာချုပ် (မူကြမ်း) တို့သည် ချိတ်ဆက်ရေးသားထားခြင်း ဖြစ်ပြီး စာချုပ်များအကျိုးသက်ရောက်မှုမှာလည်းညီတူပင်ဖြစ်ပါသည် ။ တူညီနေသော စည်းကမ်းချက်များကို ထည့်သွင်းရေးသားခြင်းမှ ချန်လှပ်ခဲ့ခြင်းဖြစ်ပါသည်။ |
| ၂။ | မြေငှားစာချုပ်(မူကြမ်း)၏စာချုပ်ဝင်များအပိုဒ်နှင့်စပ်လျဉ်း၍ အထက်အပိုဒ်၅(က)တွင် အကြံပြုထားသည့်အတိုင်းအကြံပြုပါသည်။ | စာချုပ်ဝင်များ၏ အမည်၊ ရာထူးတို့အား စာချုပ်လက်မှတ် မရေးထိုးမီ ပြည့်စုံစွာ ဖြည့်စွက်သွားမည်ဖြစ်ပါသည်။ |
| ၃။ | မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 1 Definitions ခေါင်းစဉ်အောက်ရှိ Title Deeds စာပိုဒ်တွင် ဖော်ပြထားသော Exhibits 1,2 and 3 တို့မှာ ကွက်လပ်များဖြစ်နေသည့် အတွက် စစ်ဆေးပေးနိုင်ခြင်းမရှိပါ။ အဆိုပါ Exhibit (Plot)များသည် စာချုပ်၏ အရေးကြီးသောအစိတ်အပိုင်းတစ်ရပ်ဖြစ်သဖြင့် စာချုပ်ချုပ်ဆိုချိန်တွင် ပြည့်စုံစွာပူးတွဲတင်ပြသင့်ပါသည်။ | Exhibits 1,2 and 3 တို့အား စာချုပ်လက်မှတ်ရေးထိုးချိန်တွင် ပြည့်စုံစွာထည့်သွင်းသွားမည်ဖြစ်ပါသည်။ |
| ၄။ | မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 2 Lease of Land Term ခေါင်းစဉ်အောက်တွင် ငှားရမ်း မည့်မြေနေရာ၏အကျယ်အဝန်း၊ တည်နေရာကိုလည်းကောင်း၊ တည်ဆောက်ရေး ကာလကိုလည်းကောင်း၊ ငှားရမ်းသက်တမ်းနှင့် ငှားရမ်းကာလတိုးမြှင့်ခြင်းကို လည်းကောင်း၊ ရောထွေးစွာဖော်ပြထားရာ သီးခြားခေါင်းစဉ်ဖြင့် ရှင်းလင်းစွာ ဖော်ပြသင့်ပါသည်။ | အကြံပြုချက်နှင့်အညီ ရှင်းလင်းစွာ ပြင်ဆင်ဖော်ပြပြီးဖြစ်ပါသည်။ |
| ၅။ | မြေငှားစာချုပ်(မူကြမ်း)အပိုဒ် 2 အပိုဒ်ခွဲ 2.2 တွင် Commencement Date အား ကွက်လပ်ဖြင့်ဖော်ပြထားရာ စာချုပ်ချုပ်မည့်အချိန်တွင် ပြည့်စုံစွာဖော်ပြပြီးဖြစ်ရန် လိုအပ်ပါ သည်။ ထို့အပြင် အဆိုပါစည်းကမ်းချက်၌ Commencement Date ဟုလည်း ကောင်း၊ Commencement Operation Date ဟုလည်းကောင်း အမျိုးမျိုး ဖော်ပြထား သဖြင့် ဌာနမှ ပြန်လည်စိစစ်ရန်လိုအပ် ပါသည်။ ထို့နောက် Construction Period အား မည်သည့်အချိန်နေ့ရက်ကစတင်မည် ဖြစ် ကြောင်းနှင့် Commencement Operation Date သည်လည်း မည်သည့်အချိန်တွင် စတင်မည် ဖြစ်ကြောင်းကို တိကျစွာဖော်ပြရန် လိုအပ် ပါသည်။ ထို့ပြင် စာချုပ်(မူကြမ်း)အပိုဒ်ခွဲ 2.2 တွင် မြေငှားရမ်းသည့်သက်တမ်းကို B.O.T သက်တမ်းနှင့်ချိတ်ဆက်ဖော်ပြထားပါသည်။ ထိုသို့ချိတ်ဆက်ဖော်ပြရာတွင် တည်ဆောက်ရေးကာလ လပေါင်း(၃၀)ပါဝင်သော စာချုပ်စတင်ဆောင်ရွက်သည့်နေ့ရက် (including the thirty (30) months of the Construction)ဟု ဖော်ပြထားရာ ရှင်းလင်းမှုမရှိပါသဖြင့် ဌာနမှပြန်လည်စိစစ်၍ ဖော်ပြသင့်ပါသည်။ | Commencement Date ဆိုသည်မှာ မြေငှားစာချုပ်စတင်အကျိုးသက်ရောက်သော နေ့ကိုဆိုလိုပြီး ၎င်းသည် B.O.T စာချုပ် စတင် အကျိုးသက်ရောက်သောနေ့နှင့် အတူတူပင်ဖြစ် ပါသည်။ Commencement of Commercial Operation Date သည် လုပ်ငန်းစတင်အကျိုးသက်ရောက်သော နေ့ကို ရည်ညွှန်းခြင်းဖြစ်သည်။ အဆိုပါနေ့ရက်များကို ကော်မရှင်၏ ခွင့်ပြုချက်မရမီ အတိအကျ ဖော်ပြရန် မဖြစ်နိုင်၍ ခန့်မှန်းချေစတင်မည့်ရက်ကိုသာ ယေဘုယျ ဖော်ပြထားခြင်းဖြစ်ပါ သည်။ အတိအကျ ဖော်ပြနိုင် ချိန်တွင် ကွက်လပ်များ တွင် ပြည့်စုံစွာဖြည့်စွက်ဖော်ပြပါမည်။ |
| ၆။ | မြေငှားစာချုပ်(မူကြမ်း)အပိုဒ်ခွဲ 2.3 တွင် "The Lessor Agrees to extent ------- the initial term or the fist extension of the initial term" ဟု ဖော်ပြထားခြင်းနှင့် စပ်လျဉ်း၍ အထက်အပိုဒ်၅(ဖ)ပါအတိုင်းအကြံပြုအပ်ပါသည်။ | စာချုပ်သက်တမ်းတိုးမြှင့်ရန်အတွက် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် လိုက်နာဆောင်ရွက်ရန်ဖြစ်ပါသည်။ |

| | | |
|---|---|---|
| ၇။ | မြေငှားစာချုပ်(မူကြမ်း)အပိုဒ်3Rent And Payment of Rent အပိုဒ်တို့တွင်မြန်မာကျပ် ငွေဖြင့် ပေးချေရမည်ဖြစ်ကြောင်းဖော်ပြထားပါသည်။ Lessee သည် မြန်မာနိုင်ငံသားနှင့် နိုင်ငံခြားသား တို့ပူးပေါင်းတည်ထောင်ထားသည့်ဖက်စပ်ကုမ္ပဏီဖြစ်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်မည်ဖြစ်သောကြောင့် ငှားရမ်းခအားမြန်မာကျပ်ငွေ ဖြင့်ပေး ချေမည်ဆိုပါက ဘဏ္ဍာရေးဝန်ကြီးဌာနနှင့် ကြိုတင်ညှိနှိုင်းဆောင်ရွက်ထားရန်လိုအပ်သည်။ | အကြံပြုချက်နှင့်အညီ စာချုပ်ဝင်များက သက်ဆိုင်ရာ နှင့် ကြိုတင်ညှိနှိုင်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။ |
| ၈။ | မြေငှားစာချုပ်(မူကြမ်း)အပိုဒ် 3 တွင် Rent And Payment of Rent အားဖော်ပြ ထားရာ ငှားရမ်းခပေးသွင်းခြင်းနှင့်စပ်လျဉ်း၍ ပထမနှစ်အတွက် ငှားရမ်းခအား Commencement Date တွင် ပေးချေရမည်ဟုလည်းကောင်း၊ ကျန်နှစ်များအတွက် အငှားချထားသူ၏ အကြောင်းကြားစာလက်ခံ ရရှိပြီး ရက်ပေါင်း(၃၀)အတွင်း ပေးချေမည်ဟုလည်းကောင်း ဖော်ပြထားရာ နောင်နှစ်များအတွက် ငှားရမ်းခပေးချေရ မည့်နေ့ရက်အား အငှားချထားသူမှ အကြောင်းကြားသည့်အခါမှသာ ပေးသွင်းမည့် သဘောသက်ရောက်နေပါသဖြင့် ပြန်လည် စိစစ်သင့်ပါသည်။ ထို့ပြင်ငှားရမ်းခကို သတ်မှတ်ရက်ထက်နောက်ကျပေးသွင်းပါက ဌာန အနေဖြင့် မည်သို့အရေးယူ ဆောင်ရွက်မည်ဖြစ်ကြောင်း စည်းကမ်းချက်များမပါရှိသဖြင့် ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်။ | အကြံပြုချက်အရ ငှားရမ်းခကို သတ်မှတ်ရက်ထက် နောက်ကျပေးသွင်းပါက ကုမ္ပဏီက ပေးဆောင် ရမည့်ဒဏ်ကြေးကို အပိုဒ်ခွဲ ၃(၃)အဖြစ် ဖြည့်စွက် ပြင်ဆင်ပြီးဖြစ်ပါသည်။ |
| ၉။ | မြေငှားစာချုပ်(မူကြမ်း)အပိုဒ် 3(3)တွင်ဖော်ပြထားသော "--- based on the reference inflation Rate applicable to Mawlamyine Township as announced by the Central Bank of Myanmar" ဆိုသည့်စည်းကမ်းချက်နှင့်စပ်လျဉ်း၍ ရှင်းလင်းမှု မရှိပါ။ Lessee မှ ငှားရမ်းကာလ(၁၂)နှစ်မှစ၍ နောက်ပိုင်းသက်တမ်း ကုန်ဆုံးသည် အထိ ပေးချေရ မည့် ငှားရမ်းခနှင့် စပ်လျဉ်း၍ စာချုပ်ဝင်နှစ်ဦး၏သဘောတူညီချက်ဖြင့် နောက်ဆုံးငှားရမ်းခ နှုန်းထားထက်မလျော့စေဘဲ ကာလပေါက်ဈေးအတိုင်း ညှိနှိုင်း သတ်မှတ်သင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်။ | ဌာန၏အဆိုပြုချက်အတိုင်း ဤစည်းကမ်းချက်ကို ထည့်သွင်းရေးသားထားခြင်းဖြစ်ပြီး စာချုပ်ဝင်များ သဘောတူညီပြီးဖြစ်ပါသည်။ ငှားရမ်းခကိုလည်း အပိုဒ်၃(၃)အရ ၁၂နှစ် မြောက်နှစ်မှစ၍ နှစ်စဉ်တိုးမြှင့် သွားမည်ဖြစ်ပါသ )ည်။ |
| ၁၀။ | မြေငှားစာချုပ်(မူကြမ်း)အပိုဒ် 4 Right and Obligation of the Lessee အပိုဒ်ခွဲ4.1, 4.2 နှင့် အပိုဒ်ခွဲ4.7 တို့တွင် ဖော်ပြထားသော "other related purposes" နှင့်စပ်လျဉ်း၍ ရှင်းလင်းမှုမရှိပါ။ အဆိုပါအခြားဆက်စပ်နေသောရည်ရွယ်ချက်များနှင့် စပ်လျဉ်း၍ နောင်အငြင်း ပွားမှု မဖြစ်စေရန် မည်သည့်ကိစ္စရပ်များဖြစ်ကြောင်း ရှင်းလင်းစွာ ဖော်ပြသင့်သဖြင့် ဌာနမှ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်။ | စီမံကိန်းနှင့်ပတ်သက်သည့် ရည်ရွယ်ချက်များအား B.O.T စာချုပ်(မူကြမ်း)တွင်လည်းကောင်း၊ မြေငှားစာချုပ်(မူကြမ်း)တွင်လည်းကောင်း၊ ရှင်း လင်းစွာဖော်ပြပြီးဖြစ်ပါ၍ ထပ်မံဖော်ပြခြင်း မပြုပါ။ |
| ၁၁။ | မြေငှားစာချုပ်(မူကြမ်း)အပိုဒ် 4 Right and Obligation of the Lessee အပိုဒ်ခွဲ 4.5 တွင် ဘေးချင်းကပ်လျက်ရှိသော ဧရိယာများနှင့် အဆောက်အဦများမှလွယ်ကူသက်သာ စေမှု များ၊ အထူးအခွင့် အရေးနှင့်ကင်းလွတ်ခွင့်များရှိသည်ဟု ဖော်ပြထားရာ ဌာနအနေ ဖြင့် သတိပြုသင့်ပါသည်။ | စာချုပ်ဝင်များညှိနှိုင်းချက်အရ သဘောတူညီပြီး ဖြစ်ပါသည်။ |
| ၁၂။ | မြေငှားစာချုပ်(မူကြမ်း)အပိုဒ် 4.12 တွင် Lessee သည် မြေနှင့်အဆောက်အဦရှိ မိမိပိုင်ဆိုင် သောအခြားပိုင်ဆိုင်မှုများကို မိမိ၏စရိတ်ဖြင့် ဖယ်ရှားပိုင်ခွင့်ရှိသည် ဟုဖော်ပြထားရာ ရက်ပေါင်းမည်မျှအတွင်းဖယ်ရှားမည်ဖြစ်ကြောင်း ထည့်သွင်းဖော်ပြ သင့်ပါသည်။ | စာချုပ်သက်တမ်းကုန်ချိန်တွင်ဖယ်ရှားရမည်ဖြစ် ပါသည်။ |

| | | |
|---|---|---|
| ၁၃။ | မြေငှားစာချုပ်(မူကြမ်း)အပိုဒ်5 အပိုဒ်ခွဲ 5.2တွင် မြေအသုံးပြုမှုပရီမီယံကြေး အခွန်အခ များနှင့် အခြားသောကုန်ကျစရိတ်များအား Lessee မှ ပေးရန်တာဝန်ရှိကြောင်း ဖော်ပြ ထားပါသည်။ မြေအသုံးပြုမှု ပရီမီယံကြေးမှာ Lesseeထံမှ Lessorက ရယူလေ့ရှိပြီး မြေခွန်ကိုသာ Lessorမှ ပေးဆောင်လေ့ရှိပါသည်။ သို့ဖြစ်ပါ၍ အခြားသော စရိတ်စကနှင့် အခွန်ငွေများ အား Lessor ဖြစ်သူ ဌာနမှ ပေးချေရန်ဖော်ပြထားမှုအပေါ် ဌာနမှ ပြန်လည် စိစစ်ရန် လိုအပ်ပါသည်။ | Lessor သည်မြေပိုင်ရှင်ဖြစ်သောကြောင့် ၎င်းနှင့် သက်ဆိုင်သောအခွန်အခများကို ပေးဆောင်ရန် တာဝန်ရှိပါသည်။ |
| ၁၄။ | မြေငှားစာချုပ်(မူကြမ်း)အပိုဒ်5 အပိုဒ်ခွဲ 5.4 တွင် သက်ဆိုင်ရာအာဏာပိုင်များထံမှ လုပ်ငန်းလိုင်စင်ခွင့်ပြုမိန့်ရရှိအောင် ကူညီဆောင်ရွက်ပေးရမည်ဟု ဖော်ပြထားရာ ဌာနအနေဖြင့် သက်ဆိုင်ရာဌာနများနှင့် ကြိုတင်ညှိနှိုင်းဆောင်ရွက်ထားသင့်ပါသည်။ | အကြံပြုချက်အတိုင်း သက်ဆိုင်ရာဌာနများနှင့် ကြိုတင်ညှိနှိုင်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။ |
| ၁၅။ | မြေငှားစာချုပ်(မူကြမ်း)အပိုဒ် 5 အပိုဒ်ခွဲ 5.6 တွင် နောက်ဆက်တွဲ(၁)(၂)(၃) အမှတ်အသားပြုထားသည့်လမ်းများမှမြေအားဝင်ထွက်ခွင့်ပြုရန်နှင့် Lessor ၏စရိတ်ဖြင့် ပြုပြင် ထိန်းသိမ်းရန်တာဝန်ရှိစေရမည် ဟုဖော်ပြထားရာ ပူးတွဲပါနောက်ဆက်တွဲများတွင် အမှတ် အသားများ မပါရှိကြောင်း တွေ့ရှိရသည့်အပြင် Lessor ၏စရိတ်ဖြင့် ကျခံရမည် ဖြစ်ကြောင်းပါရှိရာ ဌာနမှ သတိပြုသင့်ပါသည်။ | စာချုပ်ဝင်များ ညှိနှိုင်းသဘောတူညီပြီးဖြစ်ပါသည်။ |
| ၁၆။ | မြေငှားစာချုပ်(မူကြမ်း)အပိုဒ် 5 အပိုဒ်ခွဲ 5.6 တွင် ငှားရမ်းမည့်မြေနေရာတွင် ယခင် နေထိုင်သူများ၊ကျူးကျော်လာသူများနှင့်တတိယပုဂ္ဂိုလ်မှယင်းမြေနှင့်စပ်လျဉ်း၍အကျိုးအမြတ်များ တောင်းခံလာပါက အဆိုပါလူများအား ပြန်လည်နေရာချထားပေးခြင်း၊ လျော်ကြေး ပေးခြင်း ကိစ္စများကို Lessor မှ ၎င်း၏ကုန်ကျစရိတ်ဖြင့်သာ ဖြေရှင်းပေးမည် ဟုလည်းကောင်း၊ Lessee ၏ စီးပွားရေးလုပ်ငန်းများတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုနိုင်ရေးနှင့် Lessor မှ ယခု စည်းကမ်းချက်အား ဖောက်ဖျက်ပါက ဖြစ်ပေါ်လာသော ဆုံးရှုံး နစ်နာမှုများအတွက် Lessor ကသာ ဖြေရှင်းပေးရမည် ဟုဖော်ပြထားသည်ကို တွေ့ရှိရပါ သည်။ အဆိုပါစည်းကမ်းချက်များနှင့်စပ်လျဉ်း၍ ဌာနအနေဖြင့် ငှားရမ်းမည့်မြေပေါ်တွင် စာချုပ်ပါလုပ်ငန်း စီမံကိန်း ဆောင်ရွက်မှု အတွက် အများပြည်သူအား ထိခိုက်နိုင်ခြင်းရှိ မရှိ၊ ယင်းမြေပေါ်တွင် နေထိုင် လုပ်ကိုင်နေသော အများပြည်သူများ ရွှေ့ပြောင်းဖယ်ရှားပေးရန်လိုအပ်ခြင်းရှိမရှိ၊ ဖယ်ရှားပေးမည်ဆိုပါကသင့်လျော်သောတန်ဖိုးကိုပေးချေရန် ရှိမရှိ၊ ရွှေ့ပြောင်းဖယ်ရှားပေးလိုခြင်း ရှိသည့်နေရာများတွင် မည်သို့စီမံဆောင်ရွက်ပေးမည်ကို ယင်းနှင့်သက် ဆိုင်သည့်စည်းကမ်းချက်များ ထည့်သွင်းဖော်ပြသင့်ပါသည်။ ထို့ပြင် ယင်းစည်းကမ်းချက်များနှင့်စပ်လျဉ်း၍ ၂၀၁၂ခုနှစ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ၆ တွင်"ကော်မရှင်သည် နိုင်ငံ တော်နှင့်နိုင်ငံသားတို့၏ လုံခြုံရေးအခြေအနေ၊ စီးပွားရေး အခြေအနေ၊ ပတ်ဝန်းကျင်အခြေအနေနှင့်လူမှုအကျိုးစီးပွားကိုကြီးမားစွာအကျိုး သက် ရောက်မှုဖြစ်စေနိုင်သော နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုလုပ်ငန်းကြီးများကို ပြည်ထောင်စု အစိုးရအဖွဲ့မှတဆင့် ပြည်ထောင်စုလွှတ်တော်သို့ တင်ပြရမည်"ဟု ပြဋ္ဌာန်းထားသည်ကို သိရှိနိုင်ရန်ဖော်ပြအပ်ပါသည်။ | Lessor အနေဖြင့် Lessee ထံသို့ ငှားရမ်းထားသော မြေအား အရှုပ်အရှင်းကင်းစွာဖြင့် လက်ရောက် ပေးအပ်ရန်တာဝန်ရှိပါသည်။ ယခုငှားရမ်းမည့် မြေများမှာ Lessor က လက်ရှိအသုံးပြုနေသော မြေများဖြစ်ပြီး အရှုပ်အရှင်းကင်းသည့် မြေများ ဖြစ်ပါသည်။ |

| | | |
|---|---|---|
| ၁၇။ | မြေငှားစာချုပ်(မူကြမ်း)အပိုဒ် 5 The Buildings တွင်စာချုပ်ရုပ်စဲလျှင် ငှားရမ်းသည့် မြေပေါ်ရှိ ပစ္စည်းများနှင့်စပ်လျဉ်း၍ Lessee မှဖယ်ရှားပေးရန်နှင့်လျော်ကြေးပေးရန်မလိုအပ်ကြောင်းတို့ကို ဖော်ပြထားရာ စာချုပ်ရုပ်စဲပါက ငှားရမ်းသည့် မြေပေါ်ရှိ Lessee ပိုင်ပစ္စည်းများအား Lessor သို့ အဖိုးစားနားမဲ့လွှဲအပ်ခြင်းရှိမရှိနှင့် သို့လွှဲပြောင်းပေးမည်ဆိုပါက စာချုပ်ရုပ်စဲပြီး မည်သည့် ကာလအတွင်း လွှဲအပ်မည်ဖြစ်ကြောင်း စည်းကမ်းချက်များကို ထည့်သွင်းဖော်ပြသင့်ပါသည်။ | B.O.T. စာချုပ်(မူကြမ်း)တွင် ဖော်ပြပြီးဖြစ်ပါသည်။ |
| ၁၈။ | မြေငှားစာချုပ်(မူကြမ်း)အပိုဒ်7၊ အပိုဒ်ခွဲ7.1 တွင် Lessor မှ အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း နှင့်စပ်လျဉ်းသည့် စည်းကမ်းချက်များအားဖော်ပြထားရာ ဌာနအနေဖြင့် အမှန်တကယ် အာမခံ ဆောင်ရွက်နိုင်ခြင်းရှိမရှိ ပြန်လည်စိစစ်ပြီး အာမခံနိုင်ခွင့်ရှိမှသာ ထည့်သွင်းဖော်ပြသင့်ပါသည်။ | ညှိနှိုင်းသဘောတူညီပြီးဖြစ်ပါသည်။ |
| ၁၉။ | မြေ ငှားစာချုပ်(မူကြမ်း)အပိုဒ် 7 ၊ အပိုဒ်ခွဲ 7.2 တွင်Lessee မှ အာမခံခြင်းနှင့် ကိုယ်စားပြု ခြင်းနှင့်စပ်လျဉ်းသည့်စည်းကမ်းချက်များ၌ ကုမ္ပဏီသည် မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများ နှင့်အညီ တည်ထောင်ထားခြင်းဖြစ်ကြောင်း ဖော်ပြထားရာ စာချုပ်ချုပ်ဆိုသည့်အချိန်တွင် အဆိုပါဖက်စပ်ကုမ္ပဏီအား ဖွဲ့စည်းတည်ထောင်ပြီးဖြစ်ရန် လိုအပ်ပါသည်။ | မြန်မာနိုင်ငံကုမ္ပဏီများဥပဒေနှင့်အညီ ဖွဲ့စည်းရေး အတွက် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ |
| ၂၀။ | မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 9.2 တွင် အကြောင်းကြားဆက်သွယ်ရမည့် စည်းကမ်းချက်နှင့် စပ်လျဉ်း၍ အထက်အပိုဒ် ၅(ဟ)ပါအကြံပြုချက်အတိုင်း အကြံပြုအပ်ပါသည်။ | စာချုပ်ချုပ်ဆိုချိန်တွင် လိုအပ်ချက်များကို ပြည့်စုံ စွာဖြည့်စွက် သွားမည်ဖြစ်ပါသည်။ |
| ၂၁။ | မြေငှားစာချုပ်(မူကြမ်း)အပိုဒ်11 တွင်စာချုပ်ဝင်များသည် စာချုပ်ပါလုပ်ငန်းကိစ္စ ပြီးမြောက် အောင် ဆောင်ရွက်ပြီး အချက်အလက်များကိုလျှို့ဝှက်အဖြစ် မှတ်ယူသိမ်းဆည်းထားရမည်ဟု ဖော်ပြထား သော်လည်း မည်သည့်အချိန်ကာလအထိ ထိန်းသိမ်းထားရမည်ဆိုသော အချိန် ကာလသတ်မှတ်ချက် မပါရှိသဖြင့် ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်။ | စာချုပ်များ၏ သဘောသဘာဝအရ စာချုပ်ရုပ်စဲချိန် အထိ လျှို့ဝှက်ချက်များမှတ်ယူသိမ်းဆည်းထားရန် သဘောတူညီထားပြီးဖြစ်ပါသည်။ |
| ၂၂။ | မြေငှားစာချုပ်(မူကြမ်း)အပိုဒ်11 တွင် "---Such consent shall not be required for disclosure by a Party of any confidential information:" ဟု ဖော်ပြပြီး Cluse (a)မှ(f) အထိ ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ ယင်းအပိုဒ်တွင်ပါရှိသော (a)မှ(f)တွင် ဖော်ပြထား သည့် စည်းကမ်းချက်များနှင့်စပ်လျဉ်း၍ ဌာနမှ လက်ခံနိုင်ခြင်း ရှိမရှိ ပြန်လည်စိစစ် သင့်ပါ သည်။ | စာချုပ်ဝင်များညှိနှိုင်းချက်အရ သဘောတူညီ ထားပြီးဖြစ်ပါသည်။ |
| ၂၃။ | မြေငှားစာချုပ်(မူကြမ်း)တွင် ငှားရမ်းမည့် သက်တမ်းကာလပါရှိသော်လည်း စာချုပ်သက်တမ်း ကာလမပါရှိသဖြင့် နှစ်ဖက်ညှိနှိုင်း၍ သီးခြားခေါင်းစဉ်ဖြင့် တိကျစွာ ဖော်ပြရန်ဖြစ်ပါသည်။ ငှားရမ်းသက်တမ်းကာလသည် စာချုပ်သက်တမ်းကာလအတွင်း ကျရောက်ရန် လိုအပ်ပါသည်။ ထို့ပြင် စာချုပ်သက်တမ်းတိုးမြှင့်ခြင်း စည်းကမ်းချက်မပါရှိ၍ ဖော်ပြရန် လိုအပ်ပါသည်။ စာချုပ်သက်တမ်း တိုးမြှင့်ရာ၌ တစ်ကြိမ်လျှင် အချိန်ကာလမည်မျှဖြင့် အကြိမ်ရေမည်မျှ အထိ တိုးမြှင့်နိုင်ကြောင်း ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်။ | စာချုပ်သက်တမ်းနှင့် ငှားရမ်းမည့်သက်တမ်း အတူတူပင်ဖြစ်ပါသည်။ |
| ၂၄။ | မြေငှားစာချုပ်(မူကြမ်း)အပိုဒ် တွင် အရေးကြီးသော ဥပဒေရေးရာအပိုဒ်များဖြစ်သော စာချုပ် စတင်အကျိုးသက်ရောက်သည့်နေ့နှင့် လုပ်ကိုင်ဆောင်ရွက်မည့်ဥပဒေ(Law of Performance) တို့ မပါရှိသဖြင့် ခေါင်းစဉ်အသီးသီးဖြင့် ထည့်သွင်းဖော်ပြသင့်ပါသည်။ | B.O.T စာချုပ်(မူကြမ်း)အပိုဒ် ၂(၂)တွင် ဖော်ပြထားပြီး ဖြစ်ပါသည်။ |

| | | |
|---|---|---|
| ၂၅။ | မြေငှားစာချုပ်(မူကြမ်း)တွင် Land Use Premium ဖော်ပြထားခြင်းမရှိသဖြင့် ယင်းစည်းကမ်းချက်များနှင့် စပ်လျဉ်း၍ အထက်အပိုဒ်၅(ခခ)ပါ အကြံပြုချက်အတိုင်း အကြံပြုအပ်ပါသည်။ | ဌာန၏သဘောတူညီချက်အရ Land Use Premium ကိုတောင်းခံခြင်းမပြုဘဲ အပိုဒ်(၃)အရ ငှားရမ်းခကိုသာ တောင်းခံထားခြင်းဖြစ်ပါသည်။ |
| ၂၆။ | ပေးပို့လာသောမြေငှားစာချုပ်(မူကြမ်း)သည် မွန်ပြည်နယ်၊ မော်လမြိုင်မြို့၊ အတ္တရံမြစ်ရေ ကို သန့်စင်၍ ရေဖြန့်ဝေခြင်းလုပ်ငန်းဆောင်ရွက်ရန် ချုပ်ဆိုမည့် စာချုပ်ဖြစ်ကြောင်း တွေ့ရှိရပါသဖြင့် ရေအရင်းအမြစ်နှင့် မြစ်ချောင်းများ ထိန်းသိမ်းရေးဥပဒေနှင့်အညီ ဆောင်ရွက်ရန် လိုအပ်ပါသည်။ | ကုမ္ပဏီအနေဖြင့် သက်ဆိုင်ရာဥပဒေနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါသည်။ |
| ၂၇။ | မြေငှားစာချုပ်(မူကြမ်း)တွင် Renegotiation, Re-entry to the Land, Re-transfer of the Land တို့နှင့်စပ်လျဉ်းသည့် စည်းကမ်းချက်များမပါရှိ၍ အလားတူ စာချုပ်များတွင် အသုံးပြုလေ့ရှိသော စာပိုဒ်များကို Slip ကပ်ပေးလိုက်ပါသည်။ | ရှေ့နေချုပ်ရုံးသဘောထားမှတ်ချက်များနှင့်အညီ ပြင်ဆင်ဖြည့်စွက်ပြီးဖြစ်ပါသည်။ |
| ၂၈။ | လိုအပ်သောနေရာများတွင် မင်နီဖြင့်ပြင်ဆင်ဖြည့်စွက်ပေးလိုက်ပါသည်။ | ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်များနှင့်အညီ ပြင်ဆင်ထားပြီး ဖြစ်ပါသည်။ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**မွန်ပြည်နယ်ဥပဒေချုပ်ရုံး**

**မော်လမြိုင်မြို့**

စာအမှတ်၊ ၁၀(၄)/၆/၂/ဥခရ (မွန်) (၁၃၉၇)

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၂၂ ရက်

သို့

ပြည်နယ်အစိုးရအဖွဲ့

မွန်ပြည်နယ်

အကြောင်းအရာ။ မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့နှင့် Myanmar Tap Water Co,Ltd တို့မှ မော်လမြိုင်မြို့တွင် အဏ္ဏရုံမြစ်ရေကို သန့်စင်ဖြန့်ဝေခြင်းလုပ်ငန်းအား B.O.T စနစ်ဖြင့်ဆောင်ရွက်မည့် စာချုပ်(မူကြမ်း)နှင့် မြေငှားစာချုပ်(မူကြမ်း)များအပေါ် သဘောမှတ်ချက်ပေးရန်ကိစ္စ

ရည်ညွှန်းချက် ။

(၁) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၁၆. ၁၀. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၂(၅)၄-၂၂/နပတ(၁၀၄၄)

(၂) မွန်ပြည်နယ်ဥပဒေချုပ်ရုံး၏ ၂၈. ၈. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၁၀(၄)/၆/၂/ဥခရ(မွန်)(၁၁၇၄)

(၃) မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၏ ၂၇. ၈. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၃၀၀/၁-၉၆/၂/ဝခရ(မွန်)

(၄) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၂၂. ၉. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၂(၅)၄-၂၂/နပတ(၉၆၀)

(၅) မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့၏ ၇. ၁၀. ၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၃၀၈၅/၇-စ/မပစ/(၀၂၀)

၁။ မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့ (MSDA) နှင့် Myanmar Tap Water Co,Ltd တို့ မော်လမြိုင်မြို့တွင် အဏ္ဏရုံဖြစ်ရေကိုသန့်စင်၍ ရေဖြန့်ဝေခြင်းလုပ်ငန်းအား B.O.T စနစ်ဖြင့် လုပ်ကိုင်ရန်အတွက်ချုပ်ဆိုမည့် B.O.T စာချုပ်(မူကြမ်း)နှင့် မြေငှားစာချုပ်(မူကြမ်း)တို့အပေါ် ရည်ညွှန်း(၃)ပါစာဖြင့် သဘောထားမှတ်ချက် တောင်းခံလာသဖြင့် မွန်ပြည်နယ်ဥပဒေချုပ်ရုံးက ရည်ညွှန်း(၂)ပါစာဖြင့် လမ်းညွှန်မှုတောင်းခံခဲ့ရာ ရည်ညွှန်း(၁)ပါစာဖြင့် ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ

ပြည်ထောင်စုရှေ့နေချုပ် ဥပဒေ ပုဒ်မ ၁၂၊ ပုဒ်မခွဲ (ဠ)နှင့်အညီ B.O.T စာချုပ်(မူကြမ်း)နှင့် မြေငှား စာချုပ်(မူကြမ်း)တို့အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်း သုံးသပ်အကြံပြု ပေးပို့လာပါသည်-

B.O.T စာချုပ်(မူကြမ်း)နှင့် စပ်လျဉ်း၍

(က) B.O.T စာချုပ်(မူကြမ်း)၏ စာချုပ်ဝင်များအပိုဒ်အား စာချုပ်ပုံစံကျနမှုရှိစေရန် မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်။ ထို့ပြင် စာချုပ်ဝင်များအပိုဒ်တွင် ကိုယ်စားပြုသူ၏ အမည်၊ ရာထူးတို့အား ကွက်လပ်များဖြင့်ဖော်ပြထား၍ စာချုပ်ချုပ်ဆိုချိန်တွင် ပြည့်စုံစွာဖြည့်စွက်ပြီး ဖြစ်ရန်လိုအပ်ပါသည်၊

(ခ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 1.1 Definitions ခေါင်းစဉ်အောက်ရှိ Commercial Operation Date ကို ရေအသုံးပြုသူများထံသို့ ပေးပို့ရန်အဆင်သင့်ဖြစ်သည့် နေ့ဟုလည်းကောင်း၊ အပိုဒ် 8.1 တွင် ကုမ္ပဏီအနေဖြင့် အနည်းဆုံး ရက်(၃၀) ကြိုတင်၍ စီးပွားဖြစ်လုပ်ငန်းစတင်သည့်နေ့ကို အကြောင်းကြားမည်ဟုလည်းကောင်း ဖော်ပြထားရာ အချိန်ကာလအား တိကျစွာဖော်ပြထားခြင်းမရှိသည်ကို တွေ့ရှိရပါသည်။ သို့ပါ၍ စာချုပ်လက်မှတ်ရေးထိုးပြီးနောက် အချိန်ကာလမည်မျှအတွင်း စီးပွားဖြစ်လုပ်ငန်းစတင်နိုင်မည်ကို တိကျစွာသတ်မှတ်ဖော်ပြသင့်ပါသည်၊

(ဂ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 1.1 Definitions ခေါင်းစဉ်အောက်ရှိ Land Procurement Plan အဓိပ္ပာယ်ဖွင့်ဆိုချက်တွင် ကုမ္ပဏီအားရယူမည့် မြေတစ်ကွက်ချင်းစီ၏ အသေးစိတ်ကို နောက်ဆက်တွဲ(၂)တွင် ဖော်ပြထားသည့်ပုံစံနှင့် အပိုဒ် 4.1 တွင် သတ်မှတ်ထားသည့်အတိုင်း ရေပေးဝေရမည်ကိုဆိုလိုကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ အပိုဒ် 4.1 ၌ အဆိုပါ ရယူအသုံးပြုသည့် မြေတွင် MSDA မှ ကုမ္ပဏီသို့ ငှားရမ်းမည့်မြေနှင့် အခွင့်အရေးမပါဝင်ကြောင်း ဖော်ပြထားရာ နောက်ဆက်တွဲ(၂)အရ ကုမ္ပဏီမှရယူမည့်မြေကို MSDA မှ ကုမ္ပဏီသို့ မည်သည့်စည်းကမ်းချက်ဖြင့် အသုံးပြုခွင့်ပေးမည်ဆိုသည်မှာ ရှင်းလင်းမှုမရှိပါသဖြင့် ဌာနမှပြန်လည် စိစစ်သင့်ပါသည်၊

(ဃ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 1.1 Definitions ခေါင်းစဉ်အောက်ရှိ Water Treatment Plant ရေသန့်စင်သည့် အလုပ်ရုံဆိုသည့် အဓိပ္ပာယ်ရှင်းလင်းချက်တွင် (ရေသန့်စင်သည့် အလုပ်ရုံတည်ရှိရာမြေအပါအဝင်)ဟု ဖော်ပြထားသော်လည်း စာချုပ်(မူကြမ်း)ပါ စည်းကမ်းချက်များတွင် အလုပ်ရုံတည်ရှိရာမြေနှင့်စပ်လျဉ်း၍

တည်နေရာ၊ လိပ်စာ၊ အကျယ်အဝန်းတို့ကို သတ်မှတ်ဖော်ပြထားခြင်းမရှိသည်ကို တွေ့ရှိရပါသဖြင့် စည်းကမ်းချက်တစ်ရပ်အနေဖြင့် သီးခြားခေါင်းစဉ်ဖြင့် သတ်မှတ်ဖော်ပြသင့်ပါသည်၊

(င) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 1.1 Definitions ခေါင်းစဉ်အောက်ရှိ Company's Rights နှင့် အပိုဒ် 2.1 တို့ရှိ Company's Rights ၏ အဓိပ္ပာယ်ဖွင့်ဆိုချက်တွင် စာချုပ်သက်တမ်းတွင်း ကုမ္ပဏီသို့ သီးသန့်အခွင့်အရေး (exclusive right)ပေးရမည့် ကိစ္စရပ်များကို ဖော်ပြထားရာ MSDA အနေဖြင့် အဆိုပါ အခွင့်အရေးများပေးအပ်နိုင်ခြင်းရှိ မရှိ သေချာစွာစိစစ်ပြီးမှသာ လက်ခံသင့်ပါသည်။ ထို့ပြင် အပိုဒ် 2.4 တွင် အဆိုပါ exclusive right အဖြစ်ပေးထားသော Company's Rights နှင့် စပ်လျဉ်း၍ MSDA အနေဖြင့် ငွေကြေးတစ်စုံတစ်ရာတောင်းဆိုခွင့်မရှိကြောင်း ဖော်ပြထားရာ ဌာနမှလက်ခံနိုင်ခြင်းရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်၊

(စ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 2.1 Definitions ဒုတိယစာပိုဒ်တွင် ခေါင်းစဉ်အောက်ရှိ CommercialOperation Date စတင်ပြီးနောက် Service Areas အတွင်း ရေဖြန့်ဝေခြင်းမပြုရကြောင်း ဖော်ပြထားရာ MSDA အနေဖြင့် သတိပြုသင့်ပါသည်၊

(ဆ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 2.2 တွင် ကုမ္ပဏီအနေဖြင့် ဤသဘောတူစာချုပ်အား ပြဋ္ဌာန်းချက်များနှင့်အညီ လိုအပ်ပါက (where necessary) ဒေသဆိုင်ရာအာဏာပိုင်များ၏ အကူအညီဖြင့် စာချုပ်ကိုအကောင်အထည်ဖော်ရ မည်ဟုဖော်ပြထားရာ ရှင်းလင်းမှုမရှိပါသဖြင့် ဌာနမှပြန်လည်စိစစ်သင့်ပါသည်။

(ဇ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 2.5 စာချုပ်(သို့မဟုတ်) By Law အရ သတ်မှတ်ဖော်ပြချက်မှတပါး ကုမ္ပဏီသည် ၎င်း၏ဆောင်ရွက်ချက်များနှင့်စပ်လျဉ်း၍ MSDA ၏ ခွင့်ပြုချက်(သို့မဟုတ်) သဘောတူညီချက်ရယူရန် မလိုအပ်ကြောင်းနှင့် MSDA သို့အကြောင်းကြားဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြထားရာ MSDA အနေဖြင့် လက်ခံရန်သင့် မသင့် ပြန်လည်စိစစ်သင့်ပါသည်၊

(ဈ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 2.6 တွင် MSDA အနေဖြင့် စီမံကိန်း သို့မဟုတ် Facilities များအပေါ်တွင် ထိခိုက်မှုဖြစ်စေမည့် ကိစ္စရပ်တစ်ရပ်ရပ်ကိုဆောင်ရွက်ခြင်း (သို့မဟုတ်)အခြားသူတစ်ဦးဦးမှ ပြုလုပ်ရန်ဆောင်ရွက်သည်ကို ခွင့်ပြုခြင်းမှ ရှောင်ကြဉ်ရန်သဘောတူကြောင်း ဖော်ပြထားရာ MSDA အနေဖြင့် သတိပြုသင့်ပါသည်၊

(ည) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 4.2.4 Local Distribution Network ဒီဇိုင်းရေးဆွဲခြင်းဆောင်ရွက်ရန် ကုမ္ပဏီအတွက် မြေအသုံးချမှုအခွင့်အရေးကို MSDA အနေဖြင့် ၎င်း၏ကုန်ကျစရိတ်ဖြင့်ရယူပေးရမည်ဖြစ်ကြောင်း ဖော်ပြထားရာ MSDA အနေဖြင့် လက်ခံနိုင်ခြင်းရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်။ ထို့ပြင် ကုမ္ပဏီသည် စီမံကိန်းပြီးစီးရန်အတွက် လိုအပ်သောအချိန်ဇယား သတ်မှတ်ချက်ရှိရမည်ဟု ဖော်ပြထားရာ စီမံကိန်းပြီးစီးရန်သတ်မှတ်ရမည့် အချိန်ကာလကို ကုမ္ပဏီမှသတ်မှတ်သည့် သဘော သက်ရောက်နေပါသဖြင့် MSDA နှင့် ညှိနှိုင်းသတ်မှတ်ရန်သင့် မသင့် ပြန်လည်စိစစ်သင့်ပါသည်။

(ဋ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 5.2.2 တွင် စာချုပ်သက်တမ်းကာလနှင့် သက်တမ်းတိုးသည့်ကာလ ကုန်ဆုံးသည့်တိုင်အောင် ကုမ္ပဏီကတပ်ဆင်ခဲ့သည့် ပစ္စည်းများသည် ကုမ္ပဏီပိုင်ပစ္စည်းများဖြစ်ကြောင်းဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ စာချုပ်သက်တမ်းကုန်ဆုံးပါက အဆိုပါပစ္စည်းများကို MSDA သို့ လွှဲပြောင်းပေးပါကမည်သို့လွှဲပြောင်းမည်ဆိုသည့် စည်းကမ်းချက်အား ထည့်သွင်းသင့်သည်ဟု သဘောရရှိပါသည်၊

(ဌ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 5.3.1 တွင် MSDA ၏ တာဝန်ဝတ္တရားများကို ဖော်ပြထားရာ အဆိုပါ စည်းကမ်းချက်များနှင့်စပ်လျဉ်း၍ ဌာနမှ လိုက်နာဆောင်ရွက်လက်ခံနိုင်ခြင်းရှိ မရှိ ကြိုတင်စိစစ်သင့်ပါသည်။ ထို့ပြင် အပိုဒ် 5.3.1(5) တွင် ကုမ္ပဏီအားရေပေးဝေမှုနှင့် စပ်လျဉ်း၍ အသုံးပြုနေသောပစ္စည်းများကို အခကြေးငွေမတောင်းခံဘဲ exclusive right ဖြင့်အသုံးပြုခွင့်ပေးရမည်ဖြစ်ကြောင်း ဖော်ပြထားရာ ဌာနမှ လက်ခံနိုင်ခြင်းရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်၊

(ဍ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 5.3.1(6) နှင့် (10) တို့တွင် သက်ဆိုင်သည့် နည်းဥပဒေများ သို့မဟုတ် စည်းမျဉ်းများ၊ ရေအသုံးပြုခြင်းနှင့် ပတ်သက်သော စည်းမျဉ်းစည်းကမ်းများ(ရေခွန်နှုန်းထားညှိနှိုင်းခြင်း)တို့နှင့် ပတ်သက်၍ MSDA မှ ထုတ်ပြန်၍ ကာကွယ်ပေးရမည်ဖြစ်ကြောင်း ဖော်ပြထားရာ ဌာနအနေဖြင့် ထိုသို့ ဆောင်ရွက်နိုင်ခွင့်ရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်။

(ဎ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 5.3.1(13) ပါ စည်းကမ်းချက်နှင့်စပ်လျဉ်း၍ လျှပ်စစ်စွမ်းအားဝန်ကြီးဌာနနှင့် ကြိုတင်ညှိနှိုင်းဆောင်ရွက်ထားရန်လိုအပ်ပါသည်၊

(ဏ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 6.1.4 တွင် စာချုပ်သက်တမ်းကာလအတွင်း လိုအပ်သော

သဘောတူညီချက်များနှင့် စပ်လျဉ်း၍ စည်းကမ်းချက်များကိုဖော်ပြထားပြီး အဆိုပါ စည်းကမ်းချက်များနှင့် စပ်လျဉ်း၍ ကုမ္ပဏီ၏အကျိုးစီးပွားကို ထိခိုက်ပါက MSDA နှင့် ကုမ္ပဏီတို့အကြား အဆိုပါကိစ္စရပ်ကို ဖြေရှင်းရန်သဘောတူကြောင်း၊ ထိုသို့ ဖြေရှင်း၍မရပါက ကုမ္ပဏီအနေဖြင့် စာချုပ်ကိုရပ်စဲရန် အကြောင်းကြားပေးပို့နိုင်ကြောင်း ဖော်ပြထားရာ MSDA အနေဖြင့် လက်ခံနိုင်ခြင်းရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်။

(တ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 6.2.2 တွင် MSDA သည် စီမံကိန်းအတွင်း တင်သွင်းလာသော ပစ္စည်းများအကောက်ခွန်ကင်းလွတ်ခွင့်ရရှိရန်အတွက် အချိန်မီဆောင်ရွက်ပေးရမည်ဟု ဖော်ပြထားပြီး အခွန်ဌာနအပါအဝင် အခြားဝန်ကြီးဌာနများနှင့် ပူးပေါင်းဆောင်ရွက်ပေးရန် ဖော်ပြထားပါသဖြင့် သက်ဆိုင်ရာဝန်ကြီးဌာနများနှင့် ကြိုတင်ညှိနှိုင်းဆောင်ရွက်ထားရန်လိုအပ်မည်ဖြစ်ပါသည်၊

(ထ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 7.1.4 နှင့် အပိုဒ် 7.1.5 တို့တွင် Commercial Operation Date သတ်မှတ်ခြင်းနှင့် စပ်လျဉ်း၍ ဖော်ပြချက်များသည် ရှင်းလင်းတိကျမှုမရှိသည့်အတွက် Commercial Operation Date စတင်မည့်ရက်အား ရှင်းလင်းတိကျစွာဖော်ပြသင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဒ) B.O.T စာချုပ်(မူကြမ်း)တွင် Commercial Operation Date နှင့် စပ်လျဉ်း၍ အပိုဒ် 7 Construction ခေါင်းစဉ်အောက်ရှိ စည်းကမ်းချက်များတွင် အဆောက်အဦဆောက်လုပ်ခြင်းဟုလည်းကောင်း၊ အပိုဒ် 8 Commence of Treatment Water Production တွင် ရေသန့်စင်ထုတ်လုပ်မှုကို စတင်ခြင်းဟုလည်းကောင်း ဖော်ပြထားရာ Commercial Operation Date သတ်မှတ်သည့်စည်းကမ်းချက်များ ကွဲလွဲမှုရှိနေသည်ဟု ယူဆပါသဖြင့် ဌာနမှပြန်လည်စိစစ်သင့်ပါသည်၊

(ဓ) B.O.T စာချုပ်(မူကြမ်း) 7.1.2 Commercial Operation Date ကို စာချုပ်လက်မှတ်ထိုးသည့်နေ့မှ (၃၇)လအတွင်း စတင်ရမည်ဟုလည်းကောင်း၊ အပိုဒ် 11.1 တွင် တည်ဆောက်ရေးကာလကို (MIC) ခွင့်ပြုမိန့်ထုတ်ပြီးသည့်နောက် လပေါင်း(၃၀)ဟုလည်းကောင်း ဖော်ပြထားရာ အချိန်ကာလသတ်မှတ်ချက်များ ကိုက်ညီမှုရှိစေရေးအတွက် ဌာနမှပြန်လည်စိစစ်သင့်ပါသည်၊

(န) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 11.1 တွင် သက်တမ်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် (MIC) မှ ခွင့်ပြုမိန့်ရရှိသည့်နေ့မှ တည်ဆောက်ရေးကာလ လပေါင်း(၃၀)

မပါဝင်တဲ နှစ်(၃၀)ဟု ဖော်ပြထားပါသည်။ အဆိုပါ သက်တမ်းမှာ လုပ်ငန်းဆောင်ရွက်မှုသက်တမ်း(သို့မဟုတ်) စာချုပ်သက်တမ်းမည်သည်ကိုဆိုလိုကြောင်း ရှင်းလင်းမှုမရှိပါ။ လုပ်ငန်းဆောင်ရွက်မှုသက်တမ်းနှင့် စာချုပ်သက်တမ်းတို့ကို သီးခြားခေါင်းစဉ်များဖြင့် ရှင်းလင်းစွာ ဖော်ပြရန်လိုအပ်ပါသည်။ လုပ်ငန်းကာလသက်တမ်းသည် စာချုပ်သက်တမ်းအတွင်း ကျရောက်ရန်လိုအပ်ပါသည်၊

(ပ) B.O.T စာချုပ်(မူကြမ်း)အပိုဒ် 11.2 တွင် ကုမ္ပဏီအနေဖြင့် စာချုပ်သက်တမ်းတိုးရန် ဦးစွာအခွင့်အရေး (preemptive right)ရှိကြောင်း ဖော်ပြထားပါသည်။ ငှားရမ်းသည့်မြေငှားရမ်းကာလ(သို့မဟုတ်) မြေအသုံးပြုခွင့် ကာလတိုးမြှင့်ခြင်းနှင့် စပ်လျဉ်း၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၃၂ ၌ "ကော်မရှင်သည် ပုဒ်မ ၃၁ အရ ခွင့်ပြုထားသော သက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက်လုပ်ကိုင်လိုသော ရင်းနှီးမြှုပ်နှံသူအား ရင်းနှီးမြှုပ်နှံမှုပမာဏနှင့် လုပ်ငန်းအမျိုးအစားပေါ် မူတည်၍ တစ်ဆက်တည်း သက်တမ်းတိုးခွင့်(၁၀)နှင့် ယင်းသက်တမ်းကုန်ဆုံးပြီး ထပ်မံ၍(၁၀)နှစ်သက်တမ်းတိုးမြှင့်ပေးနိုင်သည်"ဟု ဖော်ပြထားရာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ သက်တမ်းတိုးမြှင့်ရန် လိုအပ်ပါသည်၊

(ဖ) B.O.T စာချုပ်(မူကြမ်း)အပိုဒ် 12.1.1(d) နှင့် 12.2.1(a)တို့တွင် materially breaches ဟု ဖော်ပြထားရာ materially breaches သည် မည်သည့်ကိစ္စရပ်များကို ဆိုလိုခြင်းဖြစ်ကြောင်း သတ်မှတ်ဖော်ပြသင့်ပါသည်။ ဌာနမှပြန်လည်စိစစ်သင့်ပါသည်၊

(ဗ) B.O.T စာချုပ်(မူကြမ်း)အပိုဒ် 12.1.1(a) တွင် "The Company Fail to Commence the Works wintin ninety (90)days------from the such failure is not caused by any Force Majeure or Exceptional Event"ဟူ၍ ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ ကုမ္ပဏီမှ ဌာနသို့အကြောင်းကြားသည့်နေ့မှ ရက်ပေါင်း(၉၀)အတွင်း လုပ်ငန်းစတင်ရန် ကုမ္ပဏီဘက်မှပျက်ကွက်လျှင်ဟု သဘောသက်ရောက်နေသဖြင့် ရှင်းလင်းမှုမရှိပါသောကြောင့် ဌာနမှပြန်လည်စိစစ်သင့်ပါသည်၊

(ဘ) B.O.T စာချုပ်(မူကြမ်း)အပိုဒ် 12.1.2 တွင် သတ်မှတ်ကာလမကုန်ဆုံးမီ အပိုဒ် 12.1.1 တွင် ဖော်ပြထားသော အခြေအနေများကို ကုစားခဲ့ခြင်းမရှိလျှင် MSDA အနေဖြင့် တည်ဆဲဥပဒေများနှင့်အညီ ကုမ္ပဏီအပေါ် ဥပဒေကြောင်းအရ အရေးယူဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ တဖန် အပိုဒ် 12.2.2 သတ်မှတ်ထားသော ကာလမကုန်ဆုံးမီ အပိုဒ် 12.2.1 ပါ အခြေအနေများကို မကုစားခဲ့လျှင် ကုမ္ပဏီအနေဖြင့်



[redacted]

ယခုစာချုပ်ကိုရပ်စဲနိုင်ကြောင်း ဖော်ပြထားပါသည်။ သို့ဖြစ်ရာ ကုစားမှုမရှိသည့် အခြေအနေများအပေါ် တွင် MSDA နှင့် ကုမ္ပဏီတို့အကြား ရရှိမည့်အခွင့်အရေးများမှာ မတူညီသည့်အပြင် အပိုဒ် 12.2.2 အရ စာချုပ်ရပ်စဲသည့်အခါ MSDA ဘက်မှ ပေးလျော်ရမည့်လျော်ကြေးငွေများကို ဖော်ပြထားသည်ကိုတွေ့ရှိရပါသည်။ သို့ပါ၍ အပိုဒ် 12.1.2 ၊ အပိုဒ် 12.2.2 နှင့် အပိုဒ် 12.2.3 တို့ပါ စည်းကမ်းချက်တို့အား ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(မ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 12.2.3 တွင် MSDA အနေဖြင့် စာချုပ်ရပ်စဲပါက ကုမ္ပဏီကို လျော်ကြေးပေးရမည်ဖြစ်ကြောင်းနှင့် အဆိုပါလျော်ကြေးပမာဏကို ကုမ္ပဏီမှခန့်အပ်သော လွတ်လပ်သောစာရင်းစစ် (Independent Auditor)က ဆုံးဖြတ်မည်ဖြစ်ကြောင်း ဖော်ပြထားရာ ဌာနအနေဖြင့် လက်ခံရန်သင့် မသင့် ပြန်လည်စိစစ်သင့်ပါသည်၊

(ယ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 13.1(f) တွင် ရေအရင်းအမြစ်လျော့နည်းလာခြင်း၊ အပိုဒ်ခွဲ (g)တွင် MSDA မှ ခွင့်ပြုမိန့်များ၊ လိုင်စင်များဆောင်ရွက်မှုမပေးနိုင်ခြင်း သို့မဟုတ် ကြန့်ကြာခြင်း၊ အပိုဒ်ခွဲ (h)တွင် Local Distribution Network အား MSDA မှ အနှောင့်အယှက်မရှိစေရန် ကာကွယ်သော်လည်း ပစ္စည်းယိုယွင်းခြင်း၊ အပိုဒ်ခွဲ (i)တွင် ရေအရင်းအမြစ်၏ စံချိန်စံညွှန်းမမီခြင်းကိစ္စများအား ထည့်သွင်းသတ်မှတ်ထားရာ လုပ်ငန်းလိုအပ်ချက်အရ အဆိုပါအချက်များအား Exceptional Event အဖြစ် ထည့်သွင်းသတ်မှတ်ရန်သင့် မသင့် ပြန်လည်စိစစ်သင့်ပါသည်။

(ရ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 13.3 တွင် "-----Within a reasonable time following the date of termination-----" ဟု ဖော်ပြထားရာ တိကျသောအချိန်ကာလ သတ်မှတ်ဖော်ပြရန်လိုအပ်ပါသည်၊

(လ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 13.5.1.(b) တွင် "-----it is uncertain as to when the Force Majeure or Exception will be over-----" ဟု ဖော်ပြထားပါသည်။ ထိုသို့ ဖော်ပြမည့်အစား "မလွန်ဆန်နိုင်သောဖြစ်ရပ်အား တစ်ဆက်တည်း (  )လ ထက်ကျော်လွန်ဖြစ်ပွားသည့်အခါ"ဟု ဖော်ပြသင့်ပါသည်၊

(ဝ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 13.5.2 တွင် သက်တမ်းမကုန်ဆုံးခင် စာချုပ်ရပ်စဲခဲ့လျှင် MSDA အနေဖြင့် ကုမ္ပဏီထံမှ Facilities များကို လက်ရှိအခြေအနေအတိုင်း အပိုဒ် 12.2.3(1) နှင့် (2) တို့အရ ပေးလျော်ရမည့် လျော်ကြေးနှင့်တူညီသောတန်ဖိုးဖြင့်

ဝယ်ယူရမည်ဖြစ်ကြောင်း ဖော်ပြထားရာ MSDA အနေဖြင့် အဆိုပါအချက်အား လက်ခံနိုင်ခြင်းရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်၊

(သ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 15 Notices တွင် အကြောင်းကြားပေးပို့ ဆက်သွယ်ရမည့်လိပ်စာကို စာချုပ်ချုပ်ဆိုသည့်အချိန်တွင် ပြည့်စုံစွာဖြည့်စွက်ပြီး ဖြစ်ရန်လိုအပ်ပါသည်၊

(ဟ) B.O.T စာချုပ်(မူကြမ်း) အပိုဒ် 16.3 တွင် "Any Dispute or difference----- UNCITRAL Arbitration Rules by (3)three arbitrators" ဟု လည်းကောင်း၊ အပိုဒ် 16.3 အဋ္ဌမမြောက်စာကြောင်းတွင် "except the termination shall be Region or State where the Facilities are Located" ဟု လည်းကောင်း ဖော်ပြထားပါသည်။ အပိုဒ် 16.1 နှင့် အပိုဒ် 16.2 တို့အရ မဖြေရှင်းနိုင်ပါက UNCITRAL Arbitration Rules အရ ဆောင်ရွက်ရမည်ဟုဖော်ပြထားပြီး အဋ္ဌမမြောက်စာကြောင်းတွင်မူ Facilities တည်ရှိသော တိုင်းဒေသကြီး (သို့) ပြည်နယ်အတွင်းရှိ တည်ဆဲဥပဒေအတိုင်းသာဆောင်ရွက်ရမည်ဟု ဖော်ပြထားရာ စည်းကမ်းချက်ချင်းညီညွတ်မှုမရှိဟု ယူဆပါသဖြင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဠ) B.O.T စာချုပ်(မူကြမ်း)တွင် မြစ်ရေသန့်စင်ဖြန့်ဝေခြင်းလုပ်ငန်းအား လုပ်ကိုင်ဆောင်ရွက်မည့် လုပ်ငန်း၏တည်နေရာ၊ အကျယ်အဝန်း၊ လိပ်စာအပြည့်အစုံတို့ကို သီးခြားခေါင်းစဉ်ဖြင့် ထည့်သွင်းသတ်မှတ်ဖော်ပြသင့်ပါသည်၊

(အ) B.O.T စာချုပ်(မူကြမ်း)တွင် လုပ်ငန်းအာမခံကြေး (Performance Bank Guarantee) နှင့်စပ်လျဉ်းသည့် စည်းကမ်းချက်မပါရှိကြောင်း တွေ့ရှိရပါသည်။လုပ်ငန်းအာမခံကြေးရယူရန်သင့် မသင့် ဌာနမှ သတိပြုဆောင်ရွက်သင့်ပါသည်။

(ကက) B.O.T စာချုပ်(မူကြမ်း)တွင် Land Use Premium ကြေးရယူထားခြင်းမရှိကြောင်း တွေ့ရှိရပါသည်။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၁၁၈ ၌ "အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းပိုင်မြေများကို ငှားရမ်းရာတွင် မြေအသုံးပြုမှုပရီမီယံကြေးကို သက်ဆိုင်ရာအစိုးရဌာန၊ အစိုးရအဖွဲ့အစည်းက ရင်းနှီးမြှုပ်နှံသူထံမှ တောင်းခံနိုင်သည်" ဟု ပြဋ္ဌာန်းထားကြောင်း သိရှိနိုင်ရန်အတွက် ဖော်ပြအပ်ပါသည်။

(ခခ) B.O.T စာချုပ်(မူကြမ်း)၏ စာချုပ်ဝင်များအပိုဒ်ရှိ ဌာန၏ အမည် The Mon State Development Affairs under the authority of the Mon State Government , the Republic of the Union of Myanmar ဟု လည်းကောင်း၊ မြေငှားစာချုပ်(မူကြမ်း)

၏ စာချုပ်ဝင်များအပိုဒ်ရှိ ဌာန၏ အမည် Mawlamyine Towship Development Committee, Ministry of Development, as empowered by Mon State Government, the Republic of the Union of Myanmar ဟု လည်းကောင်း ဖော်ပြထားရာ စာချုပ်ဝင်တူညီပါက စာချုပ်ဝင်အမည်အား အင်္ဂလိပ်အသုံးအနှုံးဖြင့် ဖော်ပြရာတွင် တူညီမှုရှိစေရေးနှင့် မှန်ကန်မှုရှိစေရေးတို့အတွက် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဂဂ) B.O.T စာချုပ်(မူကြမ်း)တွင် ကွက်လပ်များပါရှိရာ စာချုပ်ချုပ်ဆိုချိန်တွင် ယင်းကွက်လပ်များအား ပြည့်စုံစွာဖြည့်စွက်ပြီးဖြစ်ရန် လိုအပ်ပါသည်၊

(ဃဃ) လိုအပ်သောနေရာများတွင် မင်နီဖြင့်ပြင်ဆင်ဖြည့်စွက်ပေးလိုက်ပါသည်။

မြေငှားစာချုပ်(မူကြမ်း)နှင့်စပ်လျဉ်း၍

(က) မြေငှားစာချုပ်(မူကြမ်း)၌ ဖော်ပြထားသည့် အချို့စည်းကမ်းချက်များတွင် B.O.T စာချုပ်(မူကြမ်း)ပါအတိုင်းဟု ဖော်ပြထားရာ မြေငှားစာချုပ်(မူကြမ်း)၌ အဆိုပါ အချက်များအား B.O.T စာချုပ်(မူကြမ်း)တွင် ဖော်ပြပါရှိသည့်အတိုင်း ပြည့်စုံစွာထည့်သွင်း ဖော်ပြရန်ဖြစ်ပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ခ) မြေငှားစာချုပ်(မူကြမ်း)၏ စာချုပ်ဝင်များအပိုဒ်နှင့် စပ်လျဉ်း၍ အထက်အပိုဒ်၅(က) တွင် အကြံပြုထားသည့်အတိုင်း အကြံပြုပါသည်၊

(ဂ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 1 Definitions ခေါင်းစဉ်အောက်ရှိ Title Deeds စာပိုဒ်တွင် နောက်ဆက်တွဲအဖြစ် ဖော်ပြထားသော Exhibits 1,2 and 3 တို့မှာ ကွက်လပ်များဖြစ်နေသည့်အတွက် စစ်ဆေးပေးနိုင်ခြင်းမရှိပါ။ အဆိုပါ Exhibits (Plot)များသည် စာချုပ်၏ အရေးကြီးသော အစိတ်အပိုင်းတစ်ရပ်ဖြစ်သဖြင့် စာချုပ်ချုပ်ဆိုချိန်တွင် ပြည့်စုံစွာပူးတွဲတင်ပြသင့်ပါသည်၊

(ဃ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 2 Lease of Land Term ခေါင်းစဉ်အောက်တွင် ငှားရမ်းမည့်မြေနေရာ၏ အကျယ်အဝန်း၊ တည်နေရာကိုလည်းကောင်း၊ တည်ဆောက်ရေးကာလကိုလည်းကောင်း၊ ငှားရမ်းသက်တမ်းနှင့် ငှားရမ်းကာလတိုးမြှင့်ခြင်းကိုလည်းကောင်း ရောထွေးစွာဖော်ပြထားရာ သီးခြားခေါင်းစဉ်ဖြင့် ရှင်းလင်းစွာ ဖော်ပြသင့်ပါသည်၊

(င) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 2၊ အပိုဒ်ခွဲ 2.2 တွင် Commencement Date

အား ကွက်လပ်ဖြင့် ဖော်ပြထားရာ စာချုပ်ချုပ်မည့်အချိန်တွင် ပြည့်စုံစွာ ဖော်ပြပြီး ဖြစ်ရန်လိုအပ်ပါသည်။ ထို့အပြင် အဆိုပါစည်းကမ်းချက်၌ Commencement Date ဟုလည်းကောင်း၊ Commencement Operation Date ဟုလည်းကောင်း အမျိုးမျိုး ဖော်ပြထားသဖြင့် ဌာနမှ ပြန်လည်စိစစ်ရန်လိုအပ်ပါသည်။ ထို့နောက် Construction Period အား မည်သည့်အချိန်နေ့ရက်က စတင်မည်ဖြစ်ကြောင်းနှင့် Commencement Operation Date သည်လည်း မည်သည့်အချိန်မှ စတင်မည်ဖြစ်ကြောင်းကို တိကျစွာ ထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်။ ထို့ပြင် စာချုပ်(မူကြမ်း)အပိုဒ်ခွဲ 2.2 တွင် မြေငှားရမ်းသည့်သက်တမ်းကို B.O.T သက်တမ်းနှင့် ချိတ်ဆက်ဖော်ပြထားပါသည်။ ထိုသို့ ချိတ်ဆက်ဖော်ပြရာတွင် တည်ဆောက်ရေးကာလ လပေါင်း(၃၀)ပါဝင်သော B.O.T စာချုပ် စတင်ဆောင်ရွက်သည့်နေ့ရက် (including the thirty (30) months of the Construction)ဟု ဖော်ပြထားရာ ရှင်းလင်းမှုမရှိပါသဖြင့် ဌာနမှ ပြန်လည်စိစစ်၍ ဖော်ပြသင့်ပါသည်၊

(စ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ်ခွဲ 2.3 တွင် "The Lessor Agrees to extent---- the inital term or the first extension of the initial term" ဟု ဖော်ပြထားခြင်းနှင့် စပ်လျဉ်း၍ အထက်အပိုဒ် ၅(ဖ)ပါအတိုင်း အကြံပြုအပ်ပါသည်။

(ဆ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 3 Rent And Payment of Rent အပိုဒ်တို့တွင် မြန်မာကျပ်ငွေဖြင့် ပေးချေမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ Lessee သည် မြန်မာနိုင်ငံသားနှင့် နိုင်ငံခြားသားတို့ပူပေါင်းတည်ထောင်ထားသည့် ဖက်စပ်ကုမ္ပဏီဖြစ်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်မည်ဖြစ်သောကြောင့် ငှားရမ်းခအား မြန်မာကျပ်ငွေဖြင့် ပေးချေမည်ဆိုပါက ဘဏ္ဍာရေးဝန်ကြီးဌာနနှင့် ကြိုတင်ညှိနှိုင်းဆောင်ရွက်ထားရန် လိုအပ်ပါသည်၊

(ဇ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 3 တွင် Rent And Payment of Rent အား ဖော်ပြထားရာ ငှားရမ်းခပေးသွင်းခြင်းနှင့် စပ်လျဉ်း၍ ပထမနှစ်အတွက် ငှားရမ်းခအား Commencement Date တွင် ပေးချေမည်ဟုလည်းကောင်း၊ ကျန်နှစ်များအတွက် အငှားချထားသူ၏ အကြောင်းကြားစာလက်ခံရရှိပြီး ရက်ပေါင်း(၃၀)အတွင်း ပေးချေမည်ဟုလည်းကောင်း ဖော်ပြထားရာ နောင်နှစ်များအတွက် ငှားရမ်းခပေးချေရမည့် နေ့ရက်အားအငှားချထားသူမှ အကြောင်းကြားသည့်အခါမှသာပေးသွင်းမည့် သဘောသက်ရောက်နေပါသဖြင့် ပြန်လည်စိစစ်သင့်ပါသည်။ ထို့ပြင် ငှားရမ်းခကို

သတ်မှတ်ရက်ထက် နောက်ကျပေးသွင်းပါက ဌာနအနေဖြင့် မည်သို့အရေးယူဆောင်ရွက်မည်ဖြစ်ကြောင်း စည်းကမ်းချက်များမပါရှိသဖြင့် ထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်၊

(ဈ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 3 (3) တွင် ဖော်ပြထားသော "-----based on the reference inflation Rate applicable to Mawlamyine Township as announcend by the Central Bank of Myanmar" ဆိုသည့် စည်းကမ်းချက်နှင့် စပ်လျဉ်း၍ ရှင်းလင်းမှုမရှိပါ။ Lessee မှ ငှားရမ်းကာလ(၁၂)နှစ်မှစ၍ နောက်ပိုင်းသက်တမ်းကုန်ဆုံးသည်အထိ ပေးချေရမည့် ငှားရမ်းခနှင့်စပ်လျဉ်း၍ စာချုပ်ဝင်နှစ်ဦး၏ သဘောတူညီချက်ဖြင့် နောက်ဆုံးငှားရမ်းခနှုန်းထားထက်မလျော့စေဘဲ ကာလပေါက်ဈေးအတိုင်းညှိနှိုင်းသတ်မှတ်သင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ည) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 4 Right and Obligation of the Lessee၊ အပိုဒ်ခွဲ 4.1,4.2 နှင့် အပိုဒ်ခွဲ 4.7 တို့တွင် ဖော်ပြထားသော "other related purposes" နှင့် စပ်လျဉ်း၍ ရှင်းလင်းမှုမရှိပါ။ အဆိုပါ အခြားဆက်စပ်နေသောရည်ရွယ်ချက်များနှင့် စပ်လျဉ်း၍ နောင်အငြင်းပွားမှုမဖြစ်စေရန် မည်သည့်ကိစ္စရပ်များဖြစ်ကြောင်း ရှင်းလင်းစွာ ဖော်ပြသင့်သဖြင့် ဌာနမှ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်၊

(ဋ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 4 Right and Obligation of the Lessee၊ အပိုဒ်ခွဲ 4.5 တွင် ဘေးချင်းကပ်လျက်ရှိသော ဧရိယာများနှင့် အဆောက်အဦများမှ လွယ်ကူသက်သာစေမှုများ၊ အထူးအခွင့်အရေးနှင့် ကင်းလွတ်ခွင့်များရှိသည်ဟု ဖော်ပြထားရာ ဌာနအနေဖြင့် သတိပြုသင့်ပါသည်၊

(ဌ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ်ခွဲ 4.12 တွင် Lessee သည် မြေနှင့် အဆောက်အဦရှိ မိမိပိုင်ဆိုင်သော အခြားသောပိုင်ဆိုင်မှုများကို မိမိ၏ စရိတ်ဖြင့်ဖယ်ရှားပိုင်ခွင့်ရှိသည်ဟု ဖော်ပြထားရာ ရက်ပေါင်းမည်မျှအတွင်း ဖယ်ရှားမည်ဖြစ်ကြောင်း ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဍ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 5၊ အပိုဒ်ခွဲ 5.2 တွင် မြေအသုံးပြုမှုပရီမီယံကြေး၊ အခွန်အခများနှင့် အခြားသောကုန်ကျစရိတ်များအား Lessee မှ ပေးရန်တာဝန်ရှိကြောင်း ဖော်ပြထားပါသည်။ မြေအသုံးပြုမှုပရီမီယံကြေးမှာ Lessee ထံမှ Lessor ကရယူလော့ရှိပြီး မြေခွန်ကိုသာ Lessor မှ ပေးဆောင်လော့ရှိပါသည်။ သို့ဖြစ်ပါ၍ အခြားသောစရိတ်စကနှင့် အခွန်ငွေများအား Lessor ဖြစ်သူဌာနမှ ပေးချေရန်ဖော်ပြထားမှုအပေါ် ဌာနမှ

ပြန်လည်စိစစ်ရန် လိုအပ်ပါသည်၊

(ပ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 5၊ အပိုဒ်ခွဲ 5.4 တွင် သက်ဆိုင်ရာအာဏာပိုင်များထံမှ လုပ်ငန်းလိုင်စင်နှင့် ခွင့်ပြုမိန့်ရရှိအောင် ကူညီဆောင်ရွက်ပေးရမည်ဟု ဖော်ပြထားရာ ဌာနအနေဖြင့် သက်ဆိုင်ရာဌာနများနှင့် ကြိုတင်ညှိနှိုင်းဆောင်ရွက်ထားသင့်ပါသည်၊

(ဖ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 5၊ အပိုဒ်ခွဲ 5.5 တွင် နောက်ဆက်တွဲ(၁) (၂) (၃)ပါ အမှတ်အသားပြုထားသည့်လမ်းများမှ မြေအားဝင်ထွက်ခွင့်ပြုရန်နှင့် Lessor ၏ စရိတ်ဖြင့် ပြုပြင်ထိန်းသိမ်းရန် တာဝန်ရှိစေရမည်ဟု ဖော်ပြထားရာ ပူးတွဲပါ နောက်ဆက်တွဲများတွင် အမှတ်အသားများမပါရှိကြောင်း တွေ့ရှိရသည့်အပြင် Lessor ၏ စရိတ်ဖြင့် ကျခံရမည်ဖြစ်ကြောင်းပါရှိရာ ဌာနမှ သတိပြုသင့်ပါသည်၊

(တ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 5၊ အပိုဒ်ခွဲ 5.6 တွင် ငှားရမ်းမည့် မြေနေရာတွင် ယခင် နေထိုင်သူများ၊ ကျူးကျော်လာသူများနှင့် တတိယပုဂ္ဂိုလ်မှ ယင်းမြေနှင့်စပ်လျဉ်း၍ အကျိုးအမြတ်များတောင်းခံလာပါက အဆိုပါ လူများအား ပြန်လည်နေရာချထားပေးခြင်း၊ လျော်ကြေးပေးခြင်းကိစ္စများကို Lessor မှ ၎င်း၏ကုန်ကျစရိတ်ဖြင့်သာ ဖြေရှင်းပေးမည်ဟုလည်းကောင်း၊ Lessee ၏ စီးပွားရေးလုပ်ငန်းများတွင် ဝင်ရောက်စွက်ဖက်ခြင်း မပြုနိုင်ရေးနှင့် Lessor မှ ယခုစည်းကမ်းချက်အား ဖောက်ဖျက်ပါက ဖြစ်ပေါ်လာသော ဆုံးရှုံးနစ်နာမှုများအတွက် Lessor ကသာ ဖြေရှင်းပေးရမည်ဟု ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ အဆိုပါ စည်းကမ်းချက်နှင့် စပ်လျဉ်း၍ ဌာနအနေဖြင့် ငှားရမ်းမည့် မြေပေါ်တွင် စာချုပ်ပါ လုပ်ငန်းစီမံကိန်းဆောင်ရွက်မှုအတွက် အများပြည်သူအား ထိခိုက်နိုင်ခြင်းရှိ မရှိ၊ ယင်းမြေပေါ်တွင် နေထိုင်လုပ်ကိုင်နေသော အများပြည်သူများ ရွှေ့ပြောင်းဖယ်ရှားပေးရန်လိုအပ်ခြင်းရှိ မရှိ၊ ဖယ်ရှားပေးမည်ဆိုပါက သင့်လျော်သော တန်ဖိုးကိုပေးချေရန်ရှိ မရှိ၊ ရွှေ့ပြောင်းဖယ်ရှားပေးလိုခြင်းမရှိသည့် နေရာများတွင် မည်သို့စီမံဆောင်ရွက်ပေးမည်ကို ကြိုတင်ဆောင်ရွက်သင့်ပြီး ယင်းနှင့် သက်ဆိုင်သည့် စည်းကမ်းချက်များထည့်သွင်း ဖော်ပြသင့်ပါသည်။ ထို့ပြင် ယင်းစည်းကမ်းချက်နှင့် စပ်လျဉ်း၍ ၂၀၁၂ ခုနှစ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၆ တွင် "ကော်မရှင်သည် နိုင်ငံတော်နှင့် နိုင်ငံသားတို့၏ လုံခြုံရေးအခြေအနေ၊ စီးပွားရေးအခြေအနေ၊ ပတ်ဝန်းကျင်အခြေအနေနှင့် လူမှုအကျိုးစီးပွားကို ကြီးမားစွာ အကျိုးသက်ရောက်မှုဖြစ်စေနိုင်သော နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု လုပ်ငန်းကြီးများကို ပြည်ထောင်စုအစိုးရအဖွဲ့မှတဆင့် ပြည်ထောင်စုလွှတ်တော်သို့ တင်ပြရမည်"ဟု ပြဋ္ဌာန်းထားသည်ကို သိရှိနိုင်

ပါရန်ဖော်ပြအပ်ပါသည်၊

(ဏ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 5 The Buildings တွင် စာချုပ်ရပ်စဲလျှင် ငှားရမ်းသည့် မြေပေါ်ရှိ ပစ္စည်းများနှင့် စပ်လျဉ်း၍ Lessee မှ ဖယ်ရှားပေးရန်နှင့် လျော်ကြေးပေးရန် မလိုအပ်ကြောင်းတို့ကို ဖော်ပြထားရာ စာချုပ်ရပ်စဲပါက ငှားရမ်းသည့်မြေပေါ်ရှိ Lessee ပိုင်ပစ္စည်းများအား Lessor သို့ အဖိုးစားနားမဲ့လွှဲအပ်ခြင်းရှိ မရှိနှင့် Lessor သို့လွှဲပြောင်းပေးမည်ဆိုပါက စာချုပ်ရပ်စဲပြီး မည်သည့်ကာလအတွင်း လွှဲအပ်မည်ဖြစ်ကြောင်း စည်းကမ်းချက်များကို ထည့်သွင်းဖော်ပြသင့်ပါသည်၊

(တ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 7 ၊ အပိုဒ်ခွဲ 7.1 တွင် Lessor မှ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်းနှင့် စပ်လျဉ်းသည့် စည်းကမ်းချက်များအား ဖော်ပြထားရာ ဌာနအနေဖြင့် အမှန်တကယ် အာမခံဆောင်ရွက်နိုင်ခြင်းရှိ မရှိ ပြန်လည်စိစစ်ပြီး အာမခံနိုင်ခွင့်ရှိမှသာ ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ထ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 7 ၊ အပိုဒ်ခွဲ 7.2 တွင် Lessee မှ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်းနှင့် စပ်လျဉ်းသည့် စည်းကမ်းချက်၌ ကုမ္ပဏီသည် မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများနှင့်အညီ တည်ထောင်ထားခြင်းဖြစ်ကြောင်းဖော်ပြထားရာ စာချုပ်ချုပ်ဆိုသည့်အချိန်တွင် အဆိုပါဖက်စပ်ကုမ္ပဏီအား ဖွဲ့စည်းတည်ထောင်ပြီး ဖြစ်ရန်လိုအပ်ပါသည်၊

(န) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 9.2 တွင် အကြောင်းကြားဆက်သွယ်ရမည့် စည်းကမ်းချက်နှင့် စပ်လျဉ်း၍ အထက်အပိုဒ် ၅(ဟ)ပါ အကြံပြုချက်အတိုင်း အကြံပြုအပ်ပါသည်၊

(ပ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 11 တွင် စာချုပ်ဝင်များသည် စာချုပ်ပါ လုပ်ငန်းကိစ္စပြီးမြောက်အောင် ဆောင်ရွက်ပြီး အချက်အလက်များကို လျှို့ဝှက်အဖြစ် မှတ်ယူသိမ်းဆည်းထားရမည်ဟု ဖော်ပြထားသော်လည်း မည်သည့်အချိန်ကာလအထိ ထိန်းသိမ်းထားရမည်ဆိုသော အချိန်ကာလသတ်မှတ်ချက်မပါရှိသဖြင့် ထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်၊

(ဖ) မြေငှားစာချုပ်(မူကြမ်း) အပိုဒ် 11 တွင် "-----Such consent shall not be required for disclosure by a Party of any confidential information:"ဟု ဖော်ပြပြီး Clause (a) မှ (f) အထိ ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ ယင်းအပိုဒ်တွင် ပါရှိသော (a) မှ (f) တွင် ဖော်ပြထားသည့် စည်းကမ်းချက်များနှင့် စပ်လျဉ်း၍ ဌာနမှ လက်ခံနိုင်ခြင်းရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်၊

(ဗ) မြေငှားစာချုပ်(မူကြမ်း)တွင် ငှားရမ်းမည့် သက်တမ်းကာလပါရှိသော်လည်း စာချုပ်

သက်တမ်းကာလမပါရှိသဖြင့် နှစ်ဖက်ညှိနှိုင်း၍ သီးခြားခေါင်းစဉ်ဖြင့် တိကျစွာ ဖော်ပြရန်ဖြစ်ပါသည်။ ငှားရမ်းသက်တမ်းကာလသည် စာချုပ်သက်တမ်းကာလအတွင်း ကျရောက်ရန်လိုအပ်ပါသည်။ ထို့ပြင် စာချုပ်သက်တမ်း တိုးမြှင့်ခြင်းစည်းကမ်းချက်မပါရှိ၍ ဖော်ပြရန်လိုအပ်ပါသည်။ စာချုပ်သက်တမ်းတိုးမြှင့်ရာ၌ တစ်ကြိမ်လျှင် အချိန်ကာလ မည်မျှဖြင့် အကြိမ်ရေမည်မျှအထိ တိုးမြှင့်နိုင်ကြောင်း ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်၊

(ဘ) မြေငှားစာချုပ်(မူကြမ်း)တွင် အရေးကြီးသော ဥပဒေရေးရာအပိုဒ်များဖြစ်သော စာချုပ် စတင်အကျိုးသက်ရောက်သည့်နေ့နှင့် လုပ်ကိုင်ဆောင်ရွက်မည့် ဥပဒေ (Law of Performance)တို့ မပါရှိသဖြင့် ခေါင်းစဉ်အသီးသီးဖြင့် ထည့်သွင်းဖော်ပြသင့်ပါသည်၊

(မ) မြေငှားစာချုပ်(မူကြမ်း)တွင် Land Use Premium ဖော်ပြထားခြင်းမရှိသဖြင့် ယင်း စည်းကမ်းချက်နှင့် စပ်လျဉ်း၍ အထက်အပိုဒ် ၅(ခခ)ပါ အကြံပြုချက်အတိုင်း အကြံပြု အပ်ပါသည်၊

(ယ) ပေးပို့လာသော မြေငှားစာချုပ်(မူကြမ်း)သည် မွန်ပြည်နယ်၊ မော်လမြိုင်မြို့၊ အတ္တရံမြစ်ရေကို သန့်စင်၍ ရေဖြန့်ဝေခြင်းလုပ်ငန်းဆောင်ရွက်ရန် ချုပ်ဆိုမည့်စာချုပ်ဖြစ်ကြောင်း တွေ့ရှိရပါသဖြင့် ရေအရင်းအမြစ်နှင့် မြစ်ချောင်းများ ထိန်းသိမ်းရေးဥပဒေနှင့်အညီ ဆောင်ရွက်ရန်လိုအပ်ပါသည်၊

(ရ) မြေငှားစာချုပ်(မူကြမ်း)တွင် Renegotiation၊ Re-entry to the Land၊ Re-transfer of the Land တို့နှင့် စပ်လျဉ်းသည့် စည်းကမ်းချက်များမပါရှိ၍ အလားတူစာချုပ်များတွင် အသုံးပြုလေ့ရှိသော စာပိုဒ်များကို Slip ကပ်ပေးလိုက်ပါသည်၊

(လ) လိုအပ်သောနေရာများတွင် မင်နီဖြင့် ပြင်ဆင်ဖြည့်စွက်ပေးလိုက်ပါသည်။

၂။ ထို့အပြင် တံဆိပ်ခေါင်းအက်ဥပဒေ ပုဒ်မ ၉ အရ အစိုးရတံဆိပ်ခေါင်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်မရှိသေးလျှင် ကျသင့်သောတံဆိပ်ခေါင်းခွန်ကို "Lessee" က ထမ်းဆောင် ရမည်ဖြစ်ကြောင်း၊ စာချုပ်(မူကြမ်း)၂ ရပ်အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံးက ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ကြောင်း၊ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စများကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်း၊ ယင်းကိစ္စရပ်များနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါကြောင်း၊ Myanmar Tap Water Co,Ltd သည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားသော ကုမ္ပဏီ ဟုတ်

မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ ငွေကြေးအင်အား ပြည့်စုံမှု ရှိ မရှိ၊ စာချုပ် ၂ ရပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူ ဟုတ် မဟုတ် စသည်တို့အတွက် သက်ဆိုင်ရာ စာရွက်စာတမ်းများကို တောင်းယူစိစစ်သင့်ကြောင်း၊ စာချုပ်(မူကြမ်း) ၂ ရပ်ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရေးအတွက် ပြည်ထောင်စုရှေ့နေချုပ်ရုံး သို့ မိတ္တူ(၃)စောင်စီ ပေးပို့ပါရန်လည်းမေတ္တာရပ်ခံ အကြောင်းကြားလာပါသည်။

၃။ သို့ဖြစ်ပါ၍ မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့ (MSDA) နှင့် Myanmar Tap Water Co,Ltd တို့ မော်လမြိုင်မြို့တွင် အတ္တရံမြစ်ရေကို သန့်စင်၍ ရေဖြန့်ဝေခြင်းလုပ်ငန်းအား B.O.T စနစ်ဖြင့် လုပ်ကိုင်ရန်အတွက် ချုပ်ဆိုမည့် B.O.T စာချုပ်(မူကြမ်း)နှင့် မြေငှားစာချုပ်(မူကြမ်း)တို့ အပေါ်တွင် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ဥပဒေအကြံပြုချက်အား သိရှိနိုင်ပါရန် B.O.T စာချုပ် (မူကြမ်း)နှင့် မြေငှားစာချုပ်(မူကြမ်း)တို့ကို ပူးတွဲ၍ ပြန်လည်ပေးပို့အပ်ပါသည်။

၄။ ဤအကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန်ဖြစ်ပါသည်။

ပြည်နယ်ဥပဒေချုပ်(ကိုယ်စား)
(ခင်မောင်လွင်၊ ဥ/၂၃၄၀)
ရုံးအဖွဲ့မှူး

မိတ္တူကို -
- ဝန်ကြီး၊ စည်ပင်သာယာရေးဝန်ကြီးဌာန၊ မွန်ပြည်နယ်
- ညွှန်ကြားရေးမှူးချုပ်ရုံးခန်း၊ ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ နေပြည်တော်
- ရုံးလက်ခံ
- မျှောစာတွဲ

ပြည်  နယ်  လွှတ်  တော်  ရုံး
မွန်  ပြည်  နယ်  ၊  မော်လ  မြိုင်  မြို့
စာအမှတ် ၊ ၁၀၀/ လွှတ်တော်( တင်ပြစာ)/၀၀၇( ၇၃၁ )
ရက်စွဲ၊  ၂၀၁၅ ခုနှစ် ၊ အောက်တိုဘာလ  ၆  ရက်

သို့

ဝန်ကြီးချုပ်

ပြည်နယ်အစိုးရအဖွဲ့

မွန်ပြည်နယ်၊မော်လမြိုင်မြို့

အကြောင်းအရာ။ မော်လမြိုင်မြို့ရေပေးရေးလုပ်ငန်းနှင့်ပတ်သက်ပြီးဖက်စပ်ရင်းနှီးမြှုပ်နှံမှုစနစ်ဖြင့် Myanmar Top Water Co.Ltd နှင့် ဆောင်ရွက်မည့်လုပ်ငန်းအစီအစဉ်

ရည် ညွှန်း ချက် ။ မွန်ပြည်နယ်အစိုးရအဖွဲ့၏ ၂၃.၉.၂၀၁၅ ရက်စွဲပါစာအမှတ်၊၃၀၀/၁-၆၉/၀၁၇ (မွန်)

၁။ ရည်ညွှန်းပါစာဖြင့် ပေးပို့လာသော မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့နှင့် Myanmar Top Water Co.Ltd တို့မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အတ္တရံမြစ်ရေကို သန့်စင်၍ ဖြန့်ဝေခြင်း လုပ်ငန်းအား BOT စနစ်ဖြင့် အကောင်အထည်ဖော်မည့် အစီအစဉ်ကို ၄.၅.၂၀၁၅ ရက်နေ့တွင် ကျင်းပသော ပြည်နယ်လွှတ်တော်ရေးရာကော်မတီများ ပူးပေါင်းညှိနှိုင်းအစည်းအဝေးတွင် ဆွေးနွေးကြပါသည်။

၂။ မွန်ပြည်နယ်စည်ပင်သာယာရေးဥပဒေပုဒ်မ ၁၄(ခ)တွင် မြို့ရေပေးရေးလုပ်ငန်းကို စည်ပင်သာယာရေးအဖွဲ့မှ ဆောင်ရွက်ရန် ပြဋ္ဌာန်းပါရှိသောကြောင့် ယင်းဥပဒေပြဋ္ဌာန်းချက်နှင့်ညီညွတ်ရေး စိစစ်ဆောင်ရွက်ရမည် ဖြစ်ပါသည်။ ဖော်ပြပါလုပ်ငန်းအစီအစဉ်မှာ မြို့လူထုကျန်းမာရေး၊ သောက်သုံးရေ လုံလောက်ရေးသည် အရေးပါသော လုပ်ငန်းဖြစ်သည့်အတွက် ဆောင်ရွက်ရန် သဘောတူကြောင်းကိုမြို့နယ်စည်ပင်သာယာရေးကော်မတီ၊ ပြည်နယ်စည်ပင်သာယာရေးကော်မတီ၊ ပြည်နယ်အစိုးရအဖွဲ့တို့၏ ဆုံးဖြတ်ချက်များ ပါရှိရန် လိုအပ်ပြီး မြို့လူထုနှင့်တွေ့ဆုံပွဲမှတ်တမ်းများကိုလည်း ထားရှိရန် လိုအပ်ပါမည်။ သို့မှသာ ပြည်နယ်အစိုးရအဖွဲ့မှ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်ရန် ၇.၅.၂၀၁၅ ရက်စွဲပါစာအမှတ်၊၂၀၀/၃-၃/၀၁၇(မွန်)ဖြင့် အကြောင်းကြားထားခြင်းနှင့် ကိုက်ညီမည်ဖြစ်ပြီး ပြည်ထောင်စုအဆင့်သို့ တင်ပြဆောင်ရွက်မှုလည်း အကျုံးဝင်မည်ဖြစ်ပါသည်။

၃။ ဖွဲ့စည်းပုံအခြေခံဥပဒေ ဇယား(၂)တွင် စည်ပင်သာယာရေးဆိုင်ရာ အခွန်အခများ ဥပဒေပြဋ္ဌာန်းရာတွင် "**ရေခွန်**" ပါဝင်နေပါသည်။ယင်းရေခွန်မှာ သီးခြားဖြစ်သည်။ ယခုရေပေးရေးစီမံကိန်းအရ **ရေခ** ပေးရသည်မှာ သီးခြားဖြစ်သည်ကို မြို့လူထုရှင်းလင်းအောင် ဆောင်ရွက်ထားသင့်ပါသည်။ "**ရေခွန်**" ဥပဒေပြဋ္ဌာန်းခြင်းနှင့် ယခုစီမံကိန်းအရ **ရေခ**ဆိုသည်ကို ချိတ်ဆက်ပြီး သို့မဟုတ် သီးခြားစီဖြစ်၍ ချိတ်ဆက်ရန် မလိုခြင်းကို ကွဲကွဲပြားပြားဖြစ်ထားသင့်ပါသည်။

၄။ ဆွေးနွေးချက်အရ ရေခ ထဲမှ တစ်ယူနစ်လျှင် စည်ပင်သာယာရေးအဖွဲ့သို့ (၅)ကျပ် ပေးသွင်းရမည့်ကိစ္စမှာ အထွက်ရရှိမြစ်ရေကို ရယူအသုံးပြုခြင်းအတွက် နိုင်ငံတော်သို့ အခွန်ပေးဆောင်ရခြင်းဖြစ်ပြီး နိုင်ငံတော်ကိုယ်စား စည်ပင်သာယာရေးအဖွဲ့ ဝင်ငွေအဖြစ် ဆောင်ရွက်ခြင်းဖြစ်သင့်ကြောင်း၊ သို့မှသာ နိုင်ငံခြားကုမ္ပဏီသို့ ရေအရင်းအမြစ်အား အခမဲ့ အသုံးပြုစေခြင်းဆိုသည့်အစား ကုမ္ပဏီက ရေအတွက် အခွန်ပေးဆောင်ရခြင်းဖြင့် နိုင်ငံတော်ပိုင် ဖြစ်သည်ကို ရယူထားသင့်ပါသည်။

၅။ ဆွေးနွေးချက်အရ ရေကိုရယူ စီမံခန့်ခွဲပြီး လူထုထံ ကုမ္ပဏီမှ ဖြန့်ဖြူးခြင်းနှင့်ပတ်သက်၍ လူထု နှင့် ကုမ္ပဏီအကြား ညှိနှိုင်းဆောင်ရွက်ရန် အကြောင်းကိစ္စများ ပေါ်ပေါက်လာပါက ကိစ္စအကြီးအသေးအလိုက် ညှိနှိုင်းပေါင်းစပ်ဆောင်ရွက်ခြင်း၊ ရေပေးရေးလုပ်ငန်းအား ကြီးကြပ် ထိန်းညှိခြင်း တာဝန်ကို မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးကော်မတီသို့ တာဝန်ပေးသင့်ပါသည်။

၆။ အသေးစိတ်လုပ်ငန်းအစီအစဉ်၊ သဘောတူစာချုပ်တို့ကို ပြည်နယ်အစိုးရအဖွဲ့၊ ပြည်နယ်စည်ပင်သာယာရေးကော်မတီ၊ မြို့နယ်စည်ပင်သာယာရေးကော်မတီတို့၏ အတည်ပြုချက်ဖြင့် ဆောင်ရွက်သင့်ပါသည်။ ၎င်းအပြင် ရေဖြန့်ဝေ သုံးစွဲခြင်းဆိုင်ရာ စည်းမျဉ်း(စည်းကမ်း)ကို အတည်ပြု ဆောင်ရွက်ပေးထားခြင်းဖြင့် ကိစ္စကြီးငယ်၊ တစ်စုံတစ်ရာ ပေါ်ပေါက်လာလျှင် ယင်းစည်းမျဉ်း၊ စည်းကမ်းနှင့်အညီ အရေးယူဆောင်ရွက်သွားရမည် ဖြစ်ပါသည်။

၇။ လက်ရှိ မြို့ရေပေးစနစ်မှ ရေ အရည်အသွေးကောင်းမွန်သော၊ ရေအလုံအလောက်ရရှိသော ရေပေးစနစ်ကို ပြောင်းလဲဆောင်ရွက်ရမည်မှာ မလွဲမသွေဖြစ်ပါသည်။ လုပ်ငန်းရင်းနှီးမြှုပ်နှံမှု ဒေါ်လာ(၁၂)သန်းထိ ရှိခြင်း၊ ကျွမ်းကျင်မှု နည်းပညာများလိုအပ်ခြင်း၊ ရေပေးရေးကို တိုးချဲ့ဆောင်ရွက်ရမည့်အခြေအနေဖြစ်ခြင်း၊ သောက်သုံးနိုင်သည့်အဆင့်ရှိသော ရေအရည်အသွေးကောင်းမွန်သည့် ရေရရှိနိုင်ခြင်း စသည့်အခြေအနေများမှာ စည်ပင်သာယာရေးအဖွဲ့အနေဖြင့် ဆောင်ရွက်နိုင်သည့်အခြေအနေမရှိသောကြောင့် ယခုကဲ့သို့ BOT စနစ်ဖြင့် ဆောင်ရွက်ရန် စိစစ်ဆောင်ရွက်ခြင်းကို သဘောတူပါသည်။

၈။ ဆောင်ရွက်ရာတွင် အထက်အပိုဒ် (၂)(၃)(၄)(၅)(၆)ပါ အချက်များကို လိုအပ်သလို ဖြည့်စွက်ဆောင်ရွက်သင့်ကြောင်း၊ ယခုဆွေးနွေးဆုံးဖြတ် ပြန်ကြားခြင်းကို အနီးကပ်ဆုံးကျင်းပမည့်

ပြည်နယ်လွှတ်တော်အစည်းအဝေးသို့ တင်ပြခြင်း ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း အကြောင်းပြန်ကြားအပ်ပါသည်။

( ကျင်ဖေ )

ဥက္ကဋ္ဌ

မိတ္တူကို

ဝန်ကြီး၊ပြည်နယ်စည်ပင်သာယာရေးဝန်ကြီးဌာန၊မွန်ပြည်နယ်၊မော်လမြိုင်မြို့

ဥက္ကဋ္ဌ၊ပြည်နယ်စည်ပင်သာယာရေးကော်မတီ၊ မွန်ပြည်နယ်၊မော်လမြိုင်မြို့

ညွှန်ကြားရေးမှူး၊ ပြည်နယ်စည်ပင်သာယာရေးအဖွဲ့၊မွန်ပြည်နယ်၊မော်လမြိုင်မြို့

ဥက္ကဋ္ဌ၊မြို့နယ်စည်ပင်သာယာရေးကော်မတီ၊မွန်ပြည်နယ်၊မော်လမြိုင်မြို့

ရုံးလက်ခံ

မျှောစာတွဲ။

၂

(၂၆. ၁၂. ၂၀၁၄)ရက်(သောကြာနေ့)၊နံနက်(၁၀:၀၀)နာရီအချိန် မော်လမြိုင်မြို့နယ် ရွှေမြိုင်သီရိ
ခန်းမတွင် ကျင်းပပြုလုပ်သော မြန်မာတက်ပ်ဝါးတားကုမ္ပဏီလီမိတက်မှ မော်လမြိုင်မြို့၊ အတ္တရံမြစ်ရေကို
သန့်စင်၍ ဘုံပိုင်ဖြန့်ဖြူးပေးဝေခြင်း စီမံကိန်းအကောင်အထည်ဖော်ဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေးသည့်
အစည်းအဝေးမှတ်တမ်း

အစည်းအဝေးတက်ရောက်သူများ

၁။ အစည်းအဝေးသို့အောက်ပါပုဂ္ဂိုလ်များ တက်ရောက်ကြပါသည်-

| | | |
|---|---|---|
| ဒေါက်တာတိုးတိုးအောင် | ဥက္ကဋ္ဌ | မွန်ပြည်နယ်စည်ပင်သာယာရေးကော်မတီ |
| ဦးအေးဆွေ | ညွှန်ကြားရေးမှူး | မွန်ပြည်နယ်စည်ပင်သာယာရေးကော်မတီ |
| ဦးအိန္ဒြေ | အဖွဲ့ဝင်(၂) | မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့ |
| ဦးဖေစန်း | အဖွဲ့ဝင်(၃) | မွန်ပြည်နယ်စည်ပင်သာယာရေးကော်မတီ |
| ဦးနေဝင်း | အဖွဲ့ဝင်(၄) | မွန်ပြည်နယ်စည်ပင်သာယာရေးကော်မတီ |
| ဦးလှရှိန် | ဥက္ကဋ္ဌ | မွန်ပြည်နယ်စည်ပင်သာယာရေးကော်မတီ |
| | | မွန်ပြည်နယ်ကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များအသင်း |
| ဦးဇော်ဝင်းဌေး | ဥက္ကဋ္ဌ | မြို့နယ်စီမံခန့်ခွဲမှုကော်မတီ |
| ဦးအောင်မင်း | ဥက္ကဋ္ဌ | မော်လမြိုင်စည်ပင်သာယာရေးကော်မတီ |
| ဦးကျော်ရှိန် | ဥက္ကဋ္ဌ | မြို့နယ်ဖွံ့ဖြိုးတိုးတက်ရေး အထောက်အကူပြုကော်မတီ |
| ဦးပုန်းဝင်း | အုပ်ချုပ်ရေးမှူး | မန္တလေးရပ်ကွက် |
| ဦးဇော်ဦး | အုပ်ချုပ်ရေးမှူး | ဇေယျာမြိုင်ရပ်ကွက် |
| ဦးခင်မောင်ထွန်း | အုပ်ချုပ်ရေးမှူး | ဖက်တန်းရပ်ကွက် |
| ဦးသိန်းဝင်း | အုပ်ချုပ်ရေးမှူး | ရွှေတောင်ရပ်ကွက် |
| ဦးဝင်းလွင်ဦး | အုပ်ချုပ်ရေးမှူး | လှိုင်ရပ်ကွက် |
| ဦးမျိုးနိုင် | အုပ်ချုပ်ရေးမှူး | သာယာအေးရပ်ကွက် |
| ဦးဗျားနို | ဒု-အင်ဂျင်နီယာမှူး | ပြည်နယ်စည်ပင်သာယာရေးအဖွဲ့ |
| ဦးမြင့်အောင် | အမှုဆောင်အရာရှိ | မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့ |
| ဦးတင်ကိုကို | အင်ဂျင်နီယာမှူး | မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့ |
| ဦးခင်မောင်လတ် | အင်ဂျင်နီယာမှူး | မော်လမြိုင်စည်ပင်သာယာရေးအဖွဲ့ |
| ဒေါ်အေးအေးခိုင် | လ/ထညွှန်ကြားရေးမှူး | ပြည်နယ်စည်ပင်သာယာရေးအဖွဲ့ |

ရည်ရွယ်ချက်

၂။ မော်လမြိုင်မြို့ဖွံ့ဖြိုးတိုးတက်ရေး၊ အတ္တရံမြစ်ရေတင်လုပ်ငန်းမှ မော်လမြိုင်မြို့နေပြည်သူများ သန့်ရှင်းသော
သောက်သုံးရေ ရရှိရေးဆောင်ရွက်ရန် ရည်ရွယ်ပါသည်။

ဆွေးနွေးချက်

၃။ အစည်းအဝေးတွင် မွန်ပြည်နယ်စည်ပင်သာယာရေးဝန်ကြီးမှ အမှာစကားပြောကြားရာ၌ မော်လမြိုင်မြို့နယ်
စည်ပင်သာယာရေးအဖွဲ့မှ မော်လမြိုင်မြို့အား မြို့တော်အဂ်ါရပ်နှင့်အညီ ဖွံ့ဖြိုးတိုးတက်ရေး၊ သန့်ရှင်းသပ်ရပ် သာယာ

**'ကွန်ပျူတာဖြင့်ရိုက်ထားသောစာ ပုံစံ'** ဆိုသည်မှာ စာရွက်စာတမ်းတစ်ခု သို့မဟုတ် သတင်းအချက်အလက်များကို ပေးပို့ရာတွင်အသုံးပြုသည့်စာရွက် သို့မဟုတ် ဖတ်ရှုနိုင်သောအလားတူပုံစံကိုဆိုလိုပြီး ကွန်ပျူတာဖြင့်ရိုက်ထားသောစာဟု ရည်ညွှန်းကိုးကားရာတွင် အလားတူအဓိပ္ပါယ်အတိုင်း ဖြစ်ရမည်။

**'အစုရှယ်ယာပိုင်ဆိုင်ထားသူ'** ဆိုသည်မှာ အစုရှယ်ယာများကို ပိုင်ဆိုင်သူအဖြစ် အဖွဲ့ဝင်မှတ်တမ်းတွင် အမည်စာရင်းသွင်းထားသောပုဂ္ဂိုလ်ကို ဆိုလိုသည်။

**'ဦးပိုင်ကုမ္ပဏီ'** ဟူသည် ကွန္ဒိုးကားရာတွင်လည်း အလားတူအဓိပ္ပါယ်အတိုင်း ဖြစ်ရမည်။

**'သင်းဖွဲ့မှတ်တမ်း'** ဆိုသည်မှာ အခါအားလျော်စွာ အာဏာသက်ရောက်မှုရှိသော ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းကို ဆိုလိုသည်။

**'သာမန် ဆုံးဖြတ်ချက်'** ဆိုသည်မှာ နို့တစ်စာပေးပို့ပြီး ကျင်းပသည့်အစည်းအဝေး၌ ကုမ္ပဏီ၏ ထုတ်ဝေပြီးအစုရှယ်ယာများကို အများစုပိုင်ဆိုင်သူများက ချမှတ်သည့် ဆုံးဖြတ်ချက်ကို ဆိုလိုသည်။

**'ပေးဆောင်ပြီး'** ဆိုသည်မှာ ပေးဆောင်ပြီးခြင်း သို့မဟုတ် ပေးဆောင်ပြီး ဖြစ်သည်ဟု မှတ်ယူခြင်းကို ဆိုလိုသည်။

**"ဘုတ်အဖွဲ့အစည်းအဝေးတွင်ပါဝင်ခြင်း'** ဆိုသည်မှာ စည်းမျဉ်း၁၈ (၁)အရ ဖွင့်ဆိုထားသော အဓိပ္ပာယ် အတိုင်းဖြစ်သည်။

**'လူပုဂ္ဂိုလ်'** ဟုဆိုရာတွင် သဘာဝလူပုဂ္ဂိုလ်များ၊ ကော်ပိုရေးရှင်းများ၊ ပေးရန်တာဝန်ကန့်သတ်ထားသော ကုမ္ပဏီများ၊ ယုံကြည်အပ်နှံမှုအဖွဲ့အစည်းများ၊ ဖက်စပ်ကုမ္ပဏီများ၊ အသင်းအဖွဲ့များ၊ ကုမ္ပဏီများ၊ အစုအစပ်လုပ်ငန်းများ၊ အစိုးရများ သို့မဟုတ် အေဂျင်စီများ သို့မဟုတ် နိုင်ငံရေး သို့မဟုတ် စီးပွားရေး လုပ်ငန်းအဖွဲ့များ ပါဝင်သည်။

**'ကိုယ်စားလှယ်နို့တစ်စာ'** ဆိုသည်မှာစည်းမျဉ်း၅၁
(၁)ပါအဓိပ္ပါယ်ဖွင့်ဆိုချက်အတိုင်းဖြစ်သည်။

**'အစုရှယ်ယာ'** ဆိုသည်မှာ ကုမ္ပဏီ၏ အစုရှယ်ယာများကို ဆိုလိုသည်။

**'အထူးဆုံးဖြတ်ချက်'** ဆိုသည်မှာ အထွေထွေအစည်းအဝေးတွင် ကုမ္ပဏီက ထုတ်ဝေထားသော အစုရှယ်ယာများ၏ ၇၅% ထက်မနည်းသော အများစုကိုကိုယ်စားပြုသော အဖွဲ့ဝင်များ မှချမှတ်သော ဆုံးဖြတ်ချက်များကို ဆိုလိုသည်။ အဆိုပါ အစည်းအဝေးဆုံးဖြတ်ချက်ကို (၂၁) ရက်အောက် မလျော့နည်းစေဘဲ (သို့မဟုတ် အခြားအဖွဲ့ဝင်များ၏ သဘောတူချက်အတိုင်း အဆိုပါရက်ထက် လျော့နည်းသောကာလ) အတွင်း အထူးအစည်းအဝေးကချမှတ်ထားသော ရည်ရွယ်ချက်အတိုင်း ရေးသားအကြောင်းကြားရမည်။

**'လက်အောက်ခံကုမ္ပဏီ'** ဆိုသည်မှာ ကုမ္ပဏီများအက်ဥပဒေအရ 'လက်အောက်ခံကုမ္ပဏီ' ကို အဓိပ္ပာယ် ဖွင့်ဆိုထားသည့်အတိုင်းဖြစ်သည်။

**'လွှဲပြောင်းရယူသူ'** ဆိုသည်မှာ ဥပဒေ အရအခြားဆောင်ရွက်ချက်များကြောင့် သို့မဟုတ် အစုရှယ်ယာရှင် ဒေဝါလီခံခြင်းကြောင့် သို့မဟုတ် သေဆုံးသွားခြင်းကြောင့် အစုရှယ်ယာအပေါ် အကျိုးခံစားခွင့်ရှိသောသူ ကိုဆိုလိုသည်။

**'ရေးသားခြင်း'** ဆိုသည်မှာ အီလက်ထရောနစ်ပုံစံ သို့မဟုတ် အခြားနည်းအားဖြင့် စကားလုံးများ သို့မဟုတ် အခြားအချက်အလက်များကို နည်းလမ်းတစ်ခုခု သို့မဟုတ် နည်းလမ်းများ ပေါင်းစပ်ကာ မြင်သာအောင် ဖော်ပြခြင်းကို ဆိုလိုသည်။

၂(၂) အခန်း ၂(၁) နှင့် အခြားအခန်းများတွင်ပါဝင်သော စကားလုံးများနှင့်ဖော်ပြချက်များသည် ကုမ္ပဏီများအက်ဥပဒေအရ ကုမ္ပဏီအပေါ် အာဏာစတင်သက်ရောက်သည့်နေ့မှစ၍ တူညီသော အဓိပ္ပာယ်သက်ရောက်စေရမည်။

၂(၃) တစ်ခါတစ်ရံစကားလုံးများ၌ အနည်းကိန်းတွင် အများကိန်းပါဝင်နိုင်သကဲ့သို့ ပုလ္လိင်တွင် ဣတ္ထိလိင်လည်း ပါဝင်ရမည်။

၂(၄) ခေါင်းစဉ်များကို အဆင်ပြေချောမွေ့လွယ်ကူစေရန်အတွက်သာ ထည့်သွင်းထားခြင်းဖြစ်ပြီး ၎င်းတို့အနေဖြင့် ဤသင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်းများကို အဓိပ္ပါယ်ဖွင့်ဆိုခြင်းနှင့် သက်ဆိုင်မှုမရှိစေရ။

၂(၅) အီလက်ထရောနစ်နည်းအားဖြင့် သို့မဟုတ် အခြားနည်းအားဖြင့်ပေးပို့ရန်လိုအပ်သည့် စာရွက်စာတမ်း သို့မဟုတ် အချက်အလက်များကို ပေးပို့ရာတွင် ပေးပို့သူသည် လက်ခံသူအတွက် စဉ်းစားရမည် –

(က) ဖတ်ရှု၍ရနိုင်စေရန်

(ခ) အဆိုပါ စာရွက်စာတမ်း၏ မိတ္တူရရှိနိုင်ရန်နှင့်

ဤအခန်း၏ ရည်ရွယ်ချက်အရ စာရွက်စာတမ်း သို့မဟုတ် အချက်အလက်ကို အောက်ပါ အချိန်တွင် ဖတ်ရှု၍ရနိုင်သည်ဟု ဆိုနိုင်သည် –

(က) သာမန်မျက်စိဖြင့် ဖတ်၍ရနိုင်လျှင်

(ခ) ၎င်းတွင် ရုပ်ပုံများပါရှိလျှင် (ဥပမာ– ဓာတ်ပုံများ၊ ရုပ်ပုံများ၊ မြေပုံ၊ ရေးဆွဲထားသော ပုံများ) သာမန်မျက်စိဖြင့် မြင်နိုင်လျှင်

ဤအခန်းပါ ပြဋ္ဌာန်းချက်များတွင် သုံးနှုန်းထားသော စကားလုံးများဖြစ်သည့် 'ပို့သည်' သို့မဟုတ် 'ထောက်ပံ့' သို့မဟုတ် အခြားစကားလုံးများ (ပေးပို့၊ ပေးကမ်း၊ ထုတ်လုပ်၊ နို့တစ်စာတွင် 'ပေးသည်') ဆိုသော စကားလုံးများ စသည်တို့သည် စာရွက်စာတမ်းတစ်ခု သို့မဟုတ် အချက်အလက်များပေးပို့သည်ဟု အသုံးပြုနိုင်သည်။

## အပိုင်း ၂
## ဒါရိုက်တာများ
## ဒါရိုက်တာများ ခန့်အပ်ခြင်း

### ၃။ ဒါရိုက်တာများ၏ အရေအတွက်

သာမန်ဆုံးဖြတ်ချက်ဖြင့်ဆုံးဖြတ်ထားသည်မှတပါး ဒါရိုက်တာများ၏ အရေအတွက်သည် ငါး(၅)ဦး ဖြစ်ရမည်။

### ၄။ ပထမဒါရိုက်တာများ

ကုမ္ပဏီ၏ပထမဒါရိုက်တာများမှာ –

(က) Mr. Chaiwat Utaiwan, ထိုင်း ပတ်စ်ပို့အမှတ် – ပီ၉၅၂၁၈၅၊
(ခ) Mr. Tanat Siricharoen, ထိုင်း ပတ်စ်ပို့အမှတ် – အက်စ်၉၈၉၀၄၄၊
(ဂ) Mr. Somkiat Pattamamongkolchai, ထိုင်း ပတ်စ်ပို့အမှတ် – အေအေ၂၆၉၁၃၀၅၊
(ဃ) ဦးဖေသီဟ၊ နိုင်ငံသားစိစစ်ရေး ကဒ်အမှတ် – ၁၂/ကမရ (နိုင်) ၀၁၃၈၄၂ နှင့်
(င) ဦးစိန်ဖြိုးလှိုင်၊ နိုင်ငံသားစိစစ်ရေးကဒ် အမှတ် – ၁၀/မလမ (နိုင်) ၁၈၉၇၁၇။

### ၅။ ဒါရိုက်တာများခန့်အပ်ခြင်းဆိုင်ရာ နည်းလမ်းများ

၅(၁) ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် ဥပဒေအရခွင့်ပြုထားသည့် မည်သူမဆို စည်းမျဉ်း ၅(၂)နှင့်၅(၃)တို့ပါနည်းလမ်းများအရ သာမန်ဆုံးဖြတ်ချက်ဖြင့် ၎င်းအားဒါရိုက်တာအဖြစ် ခန့်အပ်နိုင်သည်။

၅(၂) အုပ်စု(အေ)အစုရှယ်ယာများကိုင်ဆောင်ထားသူများက ဒါရိုက်တာ(၃)ဦး သတ်မှတ်ခန့်အပ် ရမည်ဖြစ်ပြီး အုပ်စု(ဘီ) အစုရှယ်ယာကိုင်ဆောင်သူများသည် ဒါရိုက်တာ(၂)ဦး သတ်မှတ် ခန့်ထားရမည်။

၅(၃) အစုရှယ်ယာရှင်များသည် အစုရှယ်ယာရှင်များအဖြစ် ၎င်းတို့၏မဲပေးပိုင်ခွင့်များကို ကျင့်သုံး ရမည်ဖြစ်ပြီး ၎င်းတို့၏အစုရှယ်ယာများအတွက် အောက်ပါအတိုင်းမဲပေးရမည်–

(က) အမည်တင်သွင်းခွင့်ရှိသော အစုရှယ်ယာရှင်များထံမှ အမည်တင်သွင်းလာသည့် ပုဂ္ဂိုလ်များကို ကုမ္ပဏီ၏ဒါရိုက်တာများအဖြစ်ရွေးခြယ်ရန်၊
(ခ) အကယ်၍ ဒါရိုက်တာတစ်ဦးဦးသည် နှုတ်ထွက်သွားလျှင်သော်လည်းကောင်း၊ သေဆုံး သွားလျှင်သော်လည်းကောင်း သို့မဟုတ် ဒါရိုက်တာအဖြစ်မှ ရုတ်သိမ်းခြင်းခံရလျှင် သော်လည်းကောင်း၊ အဆိုပါ နှုတ်ထွက်၊ သေဆုံး သို့မဟုတ် အခြားတနည်းနည်းဖြင့်

ဒါရိုက်တာအဖြစ်မှ ရုတ်သိမ်းခြင်းခံရသူ ဒါရိုက်တာအား အမည်တင်သွင်းခဲ့သည့် အစုရှယ်ယာရှင်ကပင် အမည်တင်သွင်းသည့် ဒါရိုက်တာ အသစ်တစ်ဦးကို ရွေးခြယ်ရန်။

(ဂ) ဒါရိုက်တာကိုဖယ်ရှားရန် အမည်တင်သွင်းသူ အစုရှယ်ယာရှင်က ထောက်ခံထားသည့် မည်သည့် ဒါရိုက်တာမဆို ရုံးမှဖယ်ရှားရန်နှင့် အဆိုပါရှယ်ယာရှင်ကပင် အမည်တင်သွင်းသည့် ဒါရိုက်တာအသစ်တစ်ဦးကို ရွေးခြယ်ရန်။

အစုရှယ်ယာရှင်သည် အစားထိုး သို့မဟုတ် ဆက်ခံမည့် ဒါရိုက်တာကို အမည်တင်သွင်းရန် ပျက်ကွက်ခြင်းသည် အဆိုပါအစုရှယ်ယာရှင်က ၎င်း၏အခွင့်အရေးများကို စွန့်လွှတ်လိုက်သည်ဟူ၍ သော်လည်းကောင်း၊ အခြားမည်သည့်အစုရှယ်ယာရှင်အား အဆိုပါလစ်လပ်သွားသောဒါရိုက်တာနေရာအား ဖြည့်တင်းရန်အတွက် အမည်တင်သွင်းခွင့်ကိုပေးအပ်သည်ဟူ၍လည်းကောင်း မှတ်ယူခြင်း မပြုရ။

## ၆။ ဒါရိုက်တာအဖြစ်မှရပ်စဲခြင်း

ပုဂ္ဂိုလ်တစ်စုံတစ်ဦးသည် အောက်ပါအခြေအနေများတွင် ဒါရိုက်တာအဖြစ်မှ ချက်ချင်းရပ်နားရမည် –

(က) အဖွဲ့ဝင်များက ဒါရိုက်တာအား အပိုဒ်၅(၃)အရ ရုံးမှထုတ်ပယ်ရန် သာမန်ဆုံးဖြတ်ချက်ဖြင့် ဆုံးဖြတ်လျှင်၊

(ခ) ထိုပုဂ္ဂိုလ်သည်ဒါရိုက်တာဖြစ်ရန် ဥပဒေမှတားမြစ်ထားခြင်း သို့မဟုတ် ကုမ္ပဏီများအက်ဥပဒေအရ ဒါရိုက်တာအဖြစ်မှရပ်စဲခဲ့လျှင်၊

(ဂ) ထိုပုဂ္ဂိုလ်သည် ဒေဝါလီခံရန်အမိန့်ချမှတ်ခြင်းခံရလျှင်၊

(ဃ) ထိုပုဂ္ဂိုလ်၏မြီရှင်များက ယေဘုယျအားဖြင့် အဆိုပါပုဂ္ဂိုလ်၏ကြွေးမြီများကို ပြေလည်အောင် ပေးဆပ်ရန် တောင်းဆိုလျှင်၊

(င) ထိုပုဂ္ဂိုလ်အား ကုသပေးသည့် အသိမှတ်ပြုဆေးဆရာဝန်က ထိုပုဂ္ဂိုလ်သည် ရုပ်ပိုင်းဆိုင်ရာနှင့် စိတ်ပိုင်းဆိုင်ရာအရ ဒါရိုက်တာရာထူးထမ်းဆောင်ရန် မဖြစ်နိုင်တော့ကြောင်းနှင့် ၎င်း၏ အခြေအနေအား စောင့်ကြည့်ရန် သုံးလနှင့်အထက်လိုအပ်ကြောင်း စာဖြင့်ရေးသားပြီး ကုမ္ပဏီထံသို့ အကြောင်းကြားလျှင်၊

(စ) ကုမ္ပဏီအနေဖြင့် ဒါရိုက်တာထံမှ ၎င်းသည် ကုမ္ပဏီ၏ဒါရိုက်တာအဖြစ်မှနုတ်ထွက်ကြောင်း နို့တစ်စာလက်ခံရရှိလျှင် အဆိုပါနုတ်ထွက်စာသည် ၎င်းသက်တမ်းအရ စတင်အကျိုးသက်ရောက်သည်။

## ၇။ ဒါရိုက်တာများ၏ အလှည့်ကျစနစ်

ကုမ္ပဏီများအက်ဥပဒေ၏ လိုအပ်ချက်အရ–

၇(၁) ကုမ္ပဏီ၏ ပထမဆုံး အထွေထွေနှစ်ပတ်လည်အစည်းအဝေးတွင် ဒါရိုက်တာအားလုံးသည် ရုံးမှ အနားယူရမည်။ ၎င်းနောက်နှစ်များတွင်နှစ်စဉ်ကျင်းပသော ကုမ္ပဏီ၏ အထွေထွေနှစ်ပတ်လည် အစည်းအဝေးတွင် ဒါရိုက်တာများ၏ သုံးပုံတစ်ပုံ သို့မဟုတ် ၎င်းတို့အရေအတွက်သည် သုံးယောက် မဟုတ်လျှင် သို့မဟုတ် သုံးဖြင့်စားလျှင် မပြတ်သည့် အရည်အတွက်ဖြစ်နေလျှင် သုံးပုံတစ်ပုံခန့် အနီးစပ်ဆုံး ဖြစ်သည့် အရေအတွက်သည် ကုမ္ပဏီမှ အနားယူရမည်။

၇(၂) နှစ်စဉ်အနားယူရမည့်ဒါရိုက်တာများသည် ရုံးတွင် ၎င်းတို့ရွေးချယ်ခံရသည့် အချိန်မှစ၍ အချိန် အကြာဆုံး ထမ်းဆောင်ခဲ့သူများဖြစ်ရမည်။ သို့သော် ထိုသို့ ၎င်းတို့နှင့် တူညီသော နေ့ရက်တွင် ဒါရိုက်တာဖြစ်လာသူများသည်လည်း (၎င်းတို့အချင်းချင်းအကြား အခြားသဘောတူညီချက် တစ်စုံတစ်ရာမရှိလျှင်) အများဆုံးဖြတ်ချက်အရ အနားယူရမည်။

၇(၃) အနားယူထားသောဒါရိုက်တာသည် ပြန်လည် အရွေးချယ်ခံခွင့်ရှိသည်။

၇(၄) ကုမ္ပဏီ၏ နှစ်ပတ်လည်အထွေထွေအစည်းအဝေးတွင် အထက်တွင်ဆိုခဲ့သော အနားယူခဲ့သော ဒါရိုက်တာ၏လစ်လပ်သောနေရာတွင် ရွေးချယ်တင်မြှောက်ခံရသူဖြင့် အစားထိုးရမည်။

၇(၅) အကယ်၍ ရွေးချယ်တင်မြှောက်ခံရသော ဒါရိုက်တာများသည် တာဝန်ထမ်းဆောင်ရန် ပျက်ကွက်ခဲ့လျှင်၊အစားထိုးတာဝန်ထမ်းဆောင်ခြင်းမရှိလျှင်အထွေထွေအစည်းဝေးမှနောက်ထပ် ရက်သတ္တတစ်ပတ်အတွင်း တူညီသောနေရာ၊အချိန်၊နေ့ရက်အထိ အထွေထွေအစည်းအဝေးကို ရွှေ့ဆိုင်းနိုင်ပြီး ၎င်းရွှေ့ဆိုင်းထားသော အထွေထွေအစည်းအဝေးအတွင်း ဒါရိုက်တာသည် တာဝန်ထမ်းဆောင်ခြင်း မရှိသေးလျှင် ရာထူးမှနုတ်ထွက်သော ဒါရိုက်တာနေရာတွင် ဆက်ခံ တာဝန်ထမ်းဆောင်မည့်သူမရှိ၍ ရွှေ့ဆိုင်းထားသောအထွေထွေအစည်းအဝေးတွင် ပြန်လည် ရွေးကောက်ရန်လိုအပ်သည်ဟူ၍ မှတ်ယူရမည်။

## ၈။ ဒါရိုက်တာများ၏ အခကြေးငွေ

၈(၁) ဒါရိုက်တာများသည် ဒါရိုက်တာများမှ ဆုံးဖြတ်ထားသည့်အတိုင်း ကုမ္ပဏီအတွက် မည်သည့် ဝန်ဆောင်မှုလုပ်ငန်းများကိုမဆိုတာဝန်ယူနိုင်သည်။

၈(၂) ဒါရိုက်တာများသည် အဖွဲ့ဝင်များမှ ဆုံးဖြတ်ထားသည့်အောက်ပါအခကြေးငွေအား ခံစားခွင့် ရှိသည် –

(က) ကုမ္ပဏီအတွင် ဒါရိုက်တာများအဖြစ် ၎င်းတို့ဆောင်ရွက်မှုများနှင့်

(ခ) ကုမ္ပဏီအတွင်း ၎င်းတို့တာဝန်ယူထားသည့် အခြားသောဝန်ဆောင်မှုများ။

၈(၃) ဤသင်းဖွဲ့စည်းမျဉ်းများအရ ဒါရိုက်တာ၏ အခကြေးငွေသည် –

(က) ပုံစံအမျိုးမျိုးဖြင့် သော်လည်းကောင်း၊

(ခ) ဒါရိုက်တာ တစ်ဦး၏ ပင်စင်ကြေး၊ ထောက်ပံ့ကြေး သို့မဟုတ် သဒ္ဓါကြေး၊ သို့မဟုတ် သေဆုံးခြင်း၊ဖျားနာခြင်း၊ မသန်မစွမ်းခြင်းအတွက် အကျိုးခံစားခွင့်များနှင့် ပတ်သက်သည့် စီမံဆောင်ရွက်မှုများ ပါဝင်သည်။

၈(၄) ဒါရိုက်တာများက ဆုံးဖြတ်ချက်ချမှတ်ထားခြင်းမရှိလျှင် ဒါရိုက်တာများ၏အခကြေးငွေသည် နေ့တိုင်း အတွက်စုပေါင်း ရရှိသည်။

၈(၅) အစုရှင်များက ဆုံးဖြတ်ချက်ချမှတ်ထားခြင်းမရှိလျှင် ကုမ္ပဏီ၏လက်ခွဲကုမ္ပဏီများ သို့မဟုတ် ကုမ္ပဏီ၏အကျိုးစီးပွားအလို့ငှာ ပေါင်းစည်းထားသော အခြားသောအဖွဲ့အစည်းများ၏ ဒါရိုက်တာများ သို့မဟုတ် အခြားအရာရှိများ သို့မဟုတ် ဝန်ထမ်းများ ရရှိသည့် အခကြေးငွေများ အပေါ် ဒါရိုက်တာ များသည် ကုမ္ပဏီအား တာဝန်မခံစေရ။

## ၉။ ဒါရိုက်တာများ၏ အသုံးစရိတ်များ

ကုမ္ပဏီသည် ဒါရိုက်တာများတက်ရောက်သည့် အောက်ပါအစည်းအဝေးများအတွက် ၎င်းတို့ အမှန် တကယ်ကုန်ကျသည့် အသုံးစရိတ်များကို ပေးအပ်ရမည် –

(က) ဒါရိုက်တာများ သို့မဟုတ် ဒါရိုက်တာများ၏ ကော်မတီများ အစည်းအဝေးများ၊

(ခ) အထွေထွေ အစည်းအဝေးများ၊ သို့မဟုတ်

(ဂ) ကုမ္ပဏီ၏ မည်သည့်အစုရှယ်ယာအမျိုးအစား သို့မဟုတ် ဒီဘင်ချာငွေချေးလက်မှတ်များကိုမဆို ကိုင်ဆောင်ထားသူများ၏ သီးခြားအစည်းအဝေးများ၊ သို့မဟုတ် တစ်နည်းအားဖြင့် ၎င်းတို့၏ အခွင့်အာဏာများကို ကျင့်သုံးလျှက် ကုမ္ပဏီနှင့် စပ်လျဉ်းသည့် ၎င်းတို့၏ တာဝန်များကို ဆောင်ရွက်ခြင်း။

## ဒါရိုက်တာများ၏တာဝန်နှင့်ဝတ္တရားများ

## ၁၀။ ဒါရိုက်တာများ၏ အထွေထွေအခွင့်အာဏာ

သင်းဖွဲ့စည်းမျဉ်းများအရ ဒါရိုက်တာများသည် ကုမ္ပဏီ၏စီးပွားရေးအတွက် စီမံခန့်ခွဲရန် တာဝန်ရှိသည်။ အဆိုပါရည်ရွယ်ချက်အတွက် ၎င်းတို့သည် ကုမ္ပဏီ၏အခွင့်အာဏာများ အားလုံးကို ကျင့်သုံးနိုင်သည်။

## ၁၁။ အစုရှယ်ယာများ အရည်အချင်း သတ်မှတ်ချက်

ဒါရိုက်တာများသည် အရည်အချင်းပြည့်မီရန်အတွက် မည်သည့်အစုရှယ်ယာမျှပိုင်ဆိုင်ရန် မလိုအပ်ပေ။

## ၁၂။ အစုရှယ်ယာရှင်များ၏ သီးသန့်အာဏာ

၁၂(၁) အစုရှယ်ယာရှင်များသည် ၎င်းတို့အချင်းချင်းအကြား သို့မဟုတ် သာမန်ဆုံးဖြတ်ချက်ဖြင့် ပြုလုပ်ထားသော စာဖြင့်ရေးသားထားသော သဘောတူညီချက်ဖြင့် ဒါရိုက်တာများအား သတ်မှတ်ထားသော ဆောင်ရွက်ချက်များကို ပြုလုပ်ရန် သို့မဟုတ် ရှောင်ကြဉ်ရန်အတွက် ညွှန်ကြားနိုင်သည်။

၁၂(၂) ထိုဆုံးဖြတ်ချက် ထုတ်ပြန်သည့်နေ့ သို့မဟုတ် သဘောတူချက်ရရှိသည့်နေ့မှ စတင်ကာ ဆုံးဖြတ်ချက်အားဖြင့် ဒါရိုက်တာများ လုပ်ဆောင်ခဲ့ပြီးသမျှသည် အကျုံးဝင်သည်။ အဆိုပါ ညွှန်ကြားချက်များသည် ဒါရိုက်တာများက အဆိုပါဆုံးဖြတ်ချက်မချမှတ်မီ သို့မဟုတ် သဘောတူညီချက်မပြုလုပ်မီ လုပ်ဆောင်ခဲ့သည့် အရာမှန်သမျှ အပေါ် အကျိုးသက်ရောက်မှုမရှိစေရ။

## ၁၃။ ဒါရိုက်တာများသည် တာဝန်ခွဲဝေချမှတ်ပေးနိုင်သည်

၁၃(၁) သင်းဖွဲ့စည်းမျဉ်းများနှင့် အစုရှယ်ယာရှင်များအကြား ပြုလုပ်ထားသည့် သဘောတူညီချက်တွင်ပါရှိသည့်ပြဋ္ဌာန်းချက်များကိုအထောက်အထားပြု၍ ဒါရိုက်တာများသည် သင်းဖွဲ့စည်းမျဉ်းများတွင် ၎င်းတို့ကို အပ်နှင်းထားသော အခွင့်အာဏာများကို လိုအပ်ပါက –

(က) အဆိုပါပုဂ္ဂိုလ် သို့မဟုတ် ကော်မတီ၊
(ခ) အဆိုပါနည်းလမ်းများ (ကိုယ်စားလှယ်လွှဲစာအပါအဝင်)၊
(ဂ) အဆိုပါအတိုင်းအတာအထိ၊
(ဃ) အဆိုပါကိစ္စရပ်များ သို့မဟုတ် နယ်ပယ်များနှင့်စပ်လျဉ်း၍ သော်လည်းကောင်း၊ နှင့်
(င) အဆိုပါ စည်းမျဉ်းစည်းကမ်းများအရသော်လည်းကောင်း တာဝန်ခွဲဝေချမှတ်နိုင်သည်။

၁၃ (၂) ဒါရိုက်တာများမှ ထိုသို့သောတာဝန်ခွဲဝေမှုကို ချမှတ်ပေးလျှင် ဒါရိုက်တာများ၏ အာဏာဖြင့် တာဝန်ခွဲဝေခံရသောမည်သူ့ကိုမဆို နောက်ထပ်တာဝန်ခွဲဝေမှုအတွက် ခွင့်ပြုပေးရမည်။

၁၃ (၃) ဒါရိုက်တာများသည် မည်သည့်တာဝန်ခွဲဝေမှုကိုမဆို တစ်ခုလုံးသော်လည်းကောင်း သို့မဟုတ် တစ်စိတ်တစ်ပိုင်းသော်လည်းကောင်း ပြန်လည်ရုတ်သိမ်းနိုင်သည် သို့မဟုတ် အဆိုပါ စည်းမျဉ်းစည်းကမ်းများကို ပြောင်းလဲနိုင်သည်။

## ၁၄။ ကော်မတီများ

၁၄(၁) ဒါရိုက်တာများမှ အခွင့်အာဏာလွှဲခံရသည့်ကော်မတီများသည် ဒါရိုက်တာများ၏ ဆုံးဖြတ်ချက်များအပေါ် လွှမ်းမိုးအတည်ဖြစ်သည့် သင်းဖွဲ့စည်းမျဉ်းများ၏ ပြဋ္ဌာန်းချက်များအပေါ် အခြေခံသည့် လုပ်ထုံးလုပ်နည်းများကို လိုက်နာရမည်။

၁၄(၂) ဒါရိုက်တာများသည် ကော်မတီအားလုံး သို့မဟုတ် အချို့၏ သင်းဖွဲ့စည်းမျဉ်းများနှင့် ကိုက်ညီသည့်လုပ်ထုံးလုပ်နည်းများကို ပြုလုပ်နိုင်သည်။

# ဒါရိုက်တာများက ဆုံးဖြတ်ချက်ချမှတ်ခြင်း

## ၁၅။ ဒါရိုက်တာများက ဆုံးဖြတ်ချက်များ စုပေါင်းချမှတ်ရန်

ဒါရိုက်တာများ၏ ဆုံးဖြတ်ချက်ချမှတ်ခြင်းဆိုင်ရာအထွေထွေစည်းမျဉ်းတွင် ဒါရိုက်တာများက ချမှတ်သည့်ဆုံးဖြတ်ချက်တိုင်းသည် အစည်းအဝေး၌ အများ၏ဆုံးဖြတ်ချက် သို့မဟုတ် သင်းဖွဲ့စည်းမျဉ်းနှင့်အညီ ဖြစ်ရမည်။

## ၁၆။ စာဖြင့်ရေးသားဆုံးဖြတ်ချက်များ

၁၆ (၁) ဒါရိုက်တာအများစုက ၎င်းတို့အချင်းချင်းအကြား ၎င်းတို့၏ ကိစ္စရပ်တစ်ခုအပေါ်ဘုံအမြင်ကို မည်သည့်နည်းလမ်းဖြင့်မဆို ဖော်ပြပါရှိသည့် ဒါရိုက်တာများက ဤအပိုဒ်အရချမှတ်သော ဆုံးဖြတ်ချက် တစ်စုံတစ်ရာ။

၁၆ (၂) အဆိုပါဆုံးဖြတ်ချက်အား ဒါရိုက်တာတစ်ဦးချင်းစီကလက်မှတ်ရေးထိုးထားသော သို့မဟုတ် အဆိုပါဒါရိုက်တာ တစ်ဦးချင်းစီအနေဖြင့် စာဖြင့်ရေးသားထားသောသဘောတူညီချက် ဖော်ပြပြီး စာဖြင့်ရေးသား ထားသော ဆုံးဖြတ်ချက်ဖြင့် ပြုလုပ်နိုင်သည်။

၁၆(၃) အကယ်၍ အစည်းဝေးအထမြောက်ရန် လိုအပ်သည့်ဒါရိုက်တာအရေအတွက် မပြည့်မီပါက ဤသင်းဖွဲ့စည်းမျဉ်းအရ ဆုံးဖြတ်ချက်တစ်စုံတစ်ရာ ချမှတ်ခြင်းမပြုလုပ်နိုင်ပါ။

## ၁၇။ ဘုတ်အဖွဲ့ အစည်းအဝေးခေါ်ခြင်း

၁၇(၁) ဘုတ်အဖွဲ့ဥက္ကဋ္ဌသည် ဘုတ်အဖွဲ့အစည်းအဝေးကို ဒါရိုက်တာများထံသို့ နို့တစ်စာဖြင့်ပေးပို့၍ သော်လည်းကောင်း သို့မဟုတ် ထိုနို့တစ်စာကိုပေးရန်အတွက် ကုမ္ပဏီ၏ အတွင်းရေးမှူး (ရှိခဲ့လျှင်) သို့မဟုတ် အုပ်ချုပ်မှုဒါရိုက်တာထံ အခွင့်အာဏာအပ်နှင်းခြင်းဖြင့် သော်လည်းကောင်း အစည်းအဝေး ခေါ်ယူနိုင်ပါသည်။

၁၇(၂) မည်သည့်ဒါရိုက်တာများ၏အစည်းအဝေးနို့တစ်စာမဆို အောက်ပါအရာများကိုရည်ညွှန်းရမည်–

- (က) ၎င်း၏ အဆိုပြုသည့်နေ့စွဲနှင့် ရက်စွဲ
- (ခ) ကျင်းပမည့်နေရာနှင့်
- (ဂ) ဒါရိုက်တာများ အစည်းအဝေးတွင်တက်ရောက်ခြင်းသည် မတူညီသည့်နေရာတွင် ဖြစ်နေသည်ဟု ထင်မြင်ယူဆလျှင် ၎င်းအစည်းဝေးအတွင်း တစ်ဦးနှင့်တစ်ဦး အဆိုပြုထားသည့် ဆက်သွယ်ရေးစနစ်ဖြင့်။

၁၇(၃) အင်္ဂလိပ်စာဖြင့်ရေးသားထားသည့် ဘုတ်အဖွဲ့အစည်းအဝေးနို့တစ်စာကို ဒါရိုက်တာ တစ်ဦးချင်းထံအစည်းဝေးနေ့ (သို့မဟုတ် ဒါရိုက်တာများ အများစုမှ အခါအားလျော်စွာ သဘောတူထားသည့်နေ့) မစတင်ခင် (၁၄)ရက်ကြိုတင်ပေးပို့ရမည်။

၁၇(၄) ဘုတ်အဖွဲ့အစည်းအဝေးနှီတစ်စာအား ၎င်းစည်းဝေးနှီတစ်စာကို လက်လွှတ်သည့် ဒါရိုက်တာများထံသို့ ပေးပို့ရန်မလိုအပ်ပေ။ အစည်းအဝေးကျင်းပပြီး ထိုကဲ့သို့သော နှီတစ်စာအား ထိုကဲ့သို့ ပေးခြင်းဖြင့် အစည်းအဝေး၏ တရားဝင်ဖြစ်ခြင်း သို့မဟုတ် အစည်းအဝေး၌ ပြုလုပ်သည့် လုပ်ငန်းတစ်စုံတစ်ရာအပေါ် အကျိုးသက်ရောက်မှုမရှိစေရ။

## ၁၈။ ဘုတ်အဖွဲ့အစည်းအဝေးများတွင် ပါဝင်ခြင်း

၁၈(၁) သင်းဖွဲ့စည်းမျဉ်းများအရ ဘုတ်အဖွဲ့အစည်းအဝေးတစ်ခုလုံး သို့မဟုတ် တစိတ်တစ်ပိုင်းတွင် ပါဝင်သော ဒါရိုက်တာများသည် –

(က) သင်းဖွဲ့စည်းမျဉ်းများနှင့်အညီ အစည်းအဝေးခေါ်ဆိုကျင်းပပြီး၊နှင့်

(ခ) အစည်းအဝေးတွင် လုပ်ငန်း၏ အထူးအချက်အလက်အပေါ် ၎င်းတို့၏ယူဆချက်များ သို့မဟုတ် သတင်းအချက်အလက်များကို ပြောဆိုနိုင်ပါသည်။

၁၈(၂) ဘုတ်အဖွဲ့ အစည်းအဝေးတွင် ဒါရိုက်တာများပါဝင်ခြင်းရှိမရှိ ဆုံးဖြတ်ရာတွင် ဒါရိုက်တာများ တစ်ဦးနှင့် တစ်ဦးမည်သို့ ဆက်သွယ်ခြင်းနှင့်မသက်ဆိုင်စေရ။

၁၈(၃) ဒါရိုက်တာများအားလုံး အစည်းအဝေးတွင်ပါဝင်ခြင်းသည် တူညီသည့်နေရာတွင် မကျင်းပလျှင် အခြားနေရာတွင် ကျင်းပသည်ဟု သတ်မှတ်ဆုံးဖြတ်နိုင်သည်။

## ၁၉။ ဘုတ်အဖွဲ့အစည်းအဝေးများ အထမြောက်ရန် အနည်းဆုံးလူဦးရေ

၁၉(၁) အခြားအစည်းအဝေးခေါ်ယူခြင်းအဆိုမှလွဲ၍ အစည်းအဝေးတွင် အစည်းအဝေး အထမြောက်ရန် အနည်းဆုံးလူဦးရေ မတက်ရောက်နိုင်လျှင် မည်သည့်အဆိုကိုမှ မဲပေး၍မရပါ။

၁၉(၂) ဘုတ်အဖွဲ့အစည်းအဝေးတွင် အစည်းအဝေးအထမြောက်ရန် အနည်းဆုံးလူဦးရေ ကန့်သတ်ချက်သည် လူကိုယ်တိုင်အားဖြင့် သို့မဟုတ် ကိုယ်စားလှယ်မဲဖြင့် တက်ရောက်သည့် ဒါရိုက်တာ(၃) သုံးဦး ဖြစ်ရမည်။

၁၉(၃) အကယ်၍ ဒါရိုက်တာများ၏ စုစုပေါင်းအရေအတွက်သည် အစည်းအဝေးအထမြောက်ရန် လိုအပ်သည့် ဒါရိုက်တာအရေအတွက်ထက်နည်းနေပါက၊ ဒါရိုက်တာများသည် အစုရှယ်ယာရှင်များအနေဖြင့် နောက်ထပ်ဒါရိုက်တာများ ခန့်အပ်နိုင်ရန်အတွက်ပြုလုပ်မည့် အထွေထွေ အစည်းအဝေးကျင်းပရန် ဆုံးဖြတ်ချက်မှတစ်ပါး မည်သည့်ဆုံးဖြတ်ချက်ကိုမျှ မပြုလုပ်ရ။

## ၂၀။ ဘုတ်အဖွဲ့အစည်းအဝေးများ၌ သဘာပတိဆောင်ရွက်ခြင်း

၂၀(၁) အစုရှယ်ယာရှင်များ သို့မဟုတ် ဘုတ်အဖွဲ့သည် အုပ်စုအေ အစုရှယ်ယာရှင်များမှ သတ်မှတ်ထားသည့် ဒါရိုက်တာတစ်ဦးဦးအား ဘုတ်အဖွဲ့ အစည်းဝေးများ၌ သဘာပတိအဖြစ် ဆောင်ရွက်ရန် ခန့်အပ်ပြီး ထိုသူသည် အစုရှယ်ယာရှင်များ အစည်းအဝေးများကိုလည်း ဦးဆောင်ရမည်။

၂၀(၂) ထိုအစည်းဝေးတွင် ခန့်အပ်ခံရသည့် ပုဂ္ဂိုလ်ကို သဘာပတိဟုခေါ်ဆိုရမည်။

၂၀(၃) ဘုတ်အဖွဲ့အစည်းအဝေးတွင် သဘာပတိသည် အစည်းအဝေးစတင်ရန် မိနစ်(၃၀)အတွင်း ရောက်ရှိလာခြင်းမရှိပါက ဒါရိုက်တာများသည် အစည်းအဝေးတက်ရောက်နေသည့် အုပ်စုအေ အစုရှယ်ယာရှင်များမှ သတ်မှတ်ထားသည့် ဒါရိုက်တာများမှ တစ်ဦးဦးကို သဘာပတိအဖြစ် ခန့်အပ်နိုင်သည်။

## ၂၁။ ဆုံးဖြတ်မဲ

အကယ်၍ အဆိုပြုချက်အတွက် မဲအရေအတွက်တူညီနေပါက သဘာပတိ သို့မဟုတ် အစည်းအဝေးတွင် သဘာပတိအဖြစ်ဆောင်ရွက်သည့် အခြားဒါရိုက်တာသည် သင်းဖွဲ့စည်းမျဉ်းအရ သဘာပတိ သို့မဟုတ် အခြားဒါရိုက်တာအနေဖြင့် ဆုံးဖြတ်ချက်ချမှတ်ရန်လုပ်ငန်းစဉ်အတွက် လိုအပ်သည့်ဒါရိုက်တာ အရေအတွက် သို့မဟုတ် မဲပေးခြင်းရည်ရွယ်ချက်အတွက် ထည့်သွင်းရေတွက်ထားခြင်းမရှိလျှင်မှတစ်ပါး ဆုံးဖြတ်မဲပေးပိုင်ခွင့် မရှိစေရ။

## ၂၂။ ထိန်းသိမ်းထားရမည့် ဆုံးဖြတ်ချက်မှတ်တမ်းများ

ဒါရိုက်တာများအနေဖြင့် ဒါရိုက်တာများက ဆုံးဖြတ်ထားသည့် ဆုံးဖြတ်ချက်အသီးသီးကို ဆုံးဖြတ်ချက်အား မှတ်တမ်းတင်ထားသည့်နေ့မှစ၍ အနည်းဆုံး(၁၀)နှစ်တိုင်အောင် စာဖြင့်ရေးသား မှတ်တမ်းတင်ထားရှိရမည်။

## ၂၃။ နောက်ထပ်စည်းမျဉ်းများချမှတ်နိုင်သော ဒါရိုက်တာများ၏ကိုယ်ပိုင်ဆုံးဖြတ်ချက်

ဒါရိုက်တာများသည် သင်းဖွဲ့စည်းမျဉ်းများနှင့် အဖွဲ့ဝင်များအကြားချုပ်ဆိုထားသည့် မည်သည့် သဘောတူညီချက်စာချုပ်မဆိုတို့ကို အထောက်အထားပြု၍ ဆုံးဖြတ်ချက်များကို မည်သို့ချမှတ်ရမည်ဖြစ်ကြောင်းစသည်နှင့်စပ်လျဉ်းပြီး ၎င်းတို့သင့်လျော်သည်ထင်မြင်သည့် မည်သည့်နည်းဥပဒေမဆိုနှင့် ၎င်းနည်းဥပဒေများကို မည်သို့မှတ်တမ်းတင်မည် သို့မဟုတ် ဒါရိုက်တာများနှင့်မည်သို့ ဆက်သွယ်ဆောင်ရွက်မည် စသည်တို့နှင့် စပ်လျဉ်းပြီး ပြုလုပ်နိုင်သည်။

# အပိုင်း ၃
# အစုရှယ်ယာများနှင့် အစုရှယ်ယာဝေမျှခြင်းများ
### အစုရှယ်ယာများ

## ၂၄။ အစုရှယ်ယာများ ထုတ်ဝေခြင်း

၂၄(၁) အစုရှယ်ယာများကို အပြီးသတ်ပေးချေခြင်း၊ တစ်ဝက်ပေးချေခြင်းနှင့် ပေးချေမှုမရှိသော ရှယ်ယာများဟူ၍ ထုတ်ဝေနိုင်သည်။

၂၄(၂) ကုမ္ပဏီအတွင်း အစုရှယ်ယာများကို အောက်ပါအတိုင်း အုပ်စု(၂)ခုဖြင့်ပိုင်းခြားထားရှိရမည်။

(က) အုပ်စု (အေ)၊ ကုမ္ပဏီ၏ ထုတ်ဝေပြီးအစုရှယ်ယာများ၏ ၇၀%ဖြစ်သည့် အစုရှယ်ယာ အမှတ်(၁)မှ (၈၄၀၀၀၀၀)( 'အုပ်စုအေ အစုရှယ်ယာများ ')။

(ခ) အုပ်စု (ဘီ)၊ ကုမ္ပဏီ၏ ထုတ်ဝေပြီးအစုရှယ်ယာများ၏ ၃၀% ဖြစ်သည့် အစုရှယ်ယာအမှတ် (၈၄၀၀၀၀၁) မှ (၁၂၀၀၀၀၀၀)( 'အုပ်စုဘီအစုရှယ်ယာများ ') ။

ဤသင်းဖွဲ့စည်းမျဉ်းများတွင် အခြားနည်းသတ်မှတ်ပြဋ္ဌာန်းချက်မှတစ်ပါး ကုမ္ပဏီ၏ အစုရှယ်ယာများသည် မည်သည့်အခြေအနေတွင်မဆို တူညီသည့်အခွင့်အရေးနှင့် အဆင့်အတန်း ရှိစေရမည်။

## ၂၅။ အစုရှယ်ယာများကို ဖိတ်ခေါ်ခြင်း

၂၅(၁) ဘုတ်အဖွဲ့သည် အစုရှယ်ယာရှင်များ၏ အစုရှယ်ယာများအပေါ်ပေးချေခြင်း မရှိသေးသော ငွေများ (ပရီမီယံ(သို့)အနိမ့်ဆုံးတန်ဖိုးတစ်ခုမဟုတ်တစ်ခုသော်လည်းကောင်း)နှင့် အစုရှယ်ယာရှင်များအားလုံးသည်(ပေးချေရမည့်ရက်နှင့်အနည်းဆုံး(၁၄)ရက်အတွင်းအပြီးပေးချေရမည့်ကိစ္စနှင့်ပတ်သက်၍)၎င်းအစုရှယ်ယာအပေါ်ပေးရန် ကုမ္ပဏီကကြေညာထားသည့်အတိုင်း ငွေသား သို့မဟုတ် ပစ္စည်းတစ်မျိုးမျိုးဖြင့်ပေးချေရန်လိုအပ်ပြီး ၎င်းကို အရစ်ကျပေးချေနိုင်သည်။ ဖိတ်ခေါ်ထားသော အစုရှယ်ယာများကို ကုမ္ပဏီမှ တန်ဖိုးတစ်စုံတစ်ရာလက်ခံခြင်းမရှိမီ တစ်ခုလုံး သို့မဟုတ် တစ်စိတ်တစ်ပိုင်းကို ပယ်ဖျက်နိုင်သည်။ အစုရှယ်ယာထည့်ဝင်ရန် ဖိတ်ခေါ်ခြင်းနှင့်ပတ်သက်၍ နောက်နောင် လွှဲပြောင်းမှုပြုရာတွင် ဖိတ်ခေါ်ခံရသော ပုဂ္ဂိုလ်အပေါ် ပူးတွဲတာဝန်ရှိစေရန်နှင့် ၎င်း၏အမွေစားအမွေခံများမှလဲ ၎င်းအစုရှယ်ယာအပေါ် ရပိုင်ခွင့်ရှိစေရမည်။

၂၅(၂) အစုရှယ်ယာကိုဖိတ်ခေါ်ရန်အတွက် ဘုတ်အဖွဲ့က ခွင့်ပြုသည့် ဆုံးဖြတ်ချက်ချမှတ်ပြီးမှသာ အဆိုပါ အစုရှယ်ယာ ဖိတ်ခေါ်ခြင်းကို ပြုလုပ်သည်ဟု မှတ်ယူရမည်။

၂၅(၃) ဖိတ်ခေါ်ထားသော အစုရှယ်ယာများအပေါ် တန်ဖိုးနှုန်းထား သတ်မှတ်ထားခြင်းမရှိမီ သို့မဟုတ် စီးပွားဖြစ်မည့် သင့်လျော်သောနှုန်းထား သို့မဟုတ် ပုံသေနှုန်းထားသတ်မှတ်ခြင်းမရှိလျှင် သို့မဟုတ် တန်ဖိုးငွေ ပေးချေရမည့်သူမှ မိမိပေးချေရန်ရှိသည့်ရက်တွင် ပေးချေခြင်းမရှိသေးလျှင် ဘုတ်အဖွဲ့မှ ပေးချေရမည့်နှုန်းထား တစ်ခုလုံး သို့မဟုတ် တစ်စိတ်တစ်ပိုင်းကို လျှော့ပေါ့ပေးနိုင်သည်။

၂၅(၄) ထည့်ဝင်ရမည့် အစုရှယ်ယာနှင့်စပ်လျဉ်းသည့် ပေးချေရမည့်ပမာဏ သို့မဟုတ် မည်သည့်သတ်မှတ် ထားသည့် နေ့တွင်မဆို ဖိတ်ခေါ်ခြင်းတစ်ရပ်သည် မူလတန်ဖိုး သို့မဟုတ် ပရီမီယံငွေ သို့မဟုတ် အရစ်ကျ ပေးချေမှု အားဖြင့် ဖိတ်ခေါ်ခြင်းပြုလုပ်ခဲ့သော် ၎င်းကိုဖိတ်ခေါ်ခြင်းအဖြစ်မှတ်ယူရမည်။ အကယ်၍ ၎င်းအားပေးချေမှုမရှိခဲ့လျှင် ဖိတ်ခေါ်မှုအပေါ် ပေးရန်အချိန်စေ့သောအခါ ဤသင်းဖွဲ့စည်းမျဉ်းများပါ ပြဋ္ဌာန်းချက်များနှင့် သက်ဆိုင်စေရမည်။

၂၅(၅) အဖွဲ့ဝင်များ၏ သာမန်ဆုံးဖြတ်ချက်နှင့်ပတ်သက်၍ ၎င်းတို့ဖိတ်ခေါ်ထားသော အစုရှင်များအကြား ပေးချေရမည့်ပမာဏ၊ အချိန်စသည်တို့ တူညီမှုမရှိလျှင် ဘုတ်အဖွဲ့မှ၎င်းတို့ ထုတ်ဝေသောအစုရှယ်ယာများအပေါ် စီမံမှုများကို ဆောင်ရွက်နိုင်သည်။

၂၅(၆) ကုမ္ပဏီ၏ အထွေထွေအစည်းဝေးတွင်း ညွှန်ကြားချက်အားလုံး သင့်လျော်သော အတိုးနှုန်း သို့မဟုတ် ၎င်းအဖွဲ့ဝင်များနှင့် ဘုတ်အဖွဲ့နှစ်ဖက်စလုံးမှ သဘောတူထားသော နှုန်းထားများနှင့် ပတ်သက်၍ ဘုတ်အဖွဲ့မှ ၎င်းတို့ဆုံးဖြတ်ထားသော ပေးချေမှုမပြုရသေးသော အစုရှယ်ယာများအပေါ်နှင့် ဖိတ်ခေါ်ထားခြင်းမရှိသော အစုရှယ်ယာများမှငွေများကို မည်သည့်အစုရှယ်ရာရှင်မဆို တန်ဖိုးအားလုံး သို့မဟုတ် တစ်စိတ်တစ်ပိုင်းကို ဆန္ဒအလျောက် ကြိုတင်ပေးချေမှုများကို သင့်သည်ထင်လျှင် လက်ခံနိုင်ပြီး ၎င်းကြိုတင်ပေးငွေများ တစ်ချို့နှင့်အားလုံး (ကြိုတင်ပေးငွေများကို လက်ငင်း လက်ရောက်ပေးခြင်းနှင့် တူညီသည့်ကာလမတိုင်မီအထိ)သင့်လျော်သည်ထင်လျှင် လက်ခံနိုင်သည်။

၂၅(၇) အခါအားလျော်စွာ အစုရှယ်ယာအတွက် ပေးအပ်ခဲ့သည့် ပမာဏများအားလုံးကို ဘုတ်အဖွဲ့က အတည်ပြုထားသည့် ကုမ္ပဏီ၏အစုရှယ်ယာစာရင်းထဲတွင် ထည့်သွင်းမှတ်ထားရမည်ဖြစ်ပြီး ထိုပမာဏပေးသွင်းသည့်အချိန်တိုင်းတွင် ပေါင်းထည့်သည့်အစုရှယ်ယာ စုစုပေါင်းပမာဏကို ကိုယ်စားပြုသည့် အစုရှယ်ယာလက်မှတ်အား ထုတ်ပေးရမည်။

## ၂၆။ အစုရှယ်ယာများ ရုပ်သိမ်းခြင်း

၂၆(၁ ) ပေးချေရန်အချိန်စေ့လျှက် မပေးချေရသေးဘဲရှိနေသော ဖိတ်ခေါ်ထားသော အစုရှယ်ယာများရှိလျှင် ဘုတ်အဖွဲ့မှနေ၍ ၎င်းကျန်ရှိသောသူထံ(၁၄)တစ်ဆယ့်လေးရက်ထက်နောက်မကျစေဘဲ ပေးချေရန် နို့တစ်စာပေးပို့နိုင်သည်။ ၎င်းနို့တစ်စာတွင် ကုန်ကျစရိတ်များအပေါ် အတိုးများ အပါအဝင် ၎င်းပေးချေခြင်းမရှိခြင်းအတွက် ကုမ္ပဏီမှကျခံရသော အသုံးစရိတ်များ ထည့်သွင်းဖေါ်ပြရန်လိုအပ်သည်။ ၎င်းနို့တစ်စာတွင် ပေးချေမှုပြုလုပ်ရမည့် နေရာ အမည်နှင့် ၎င်းအစုရှယ်ယာနှင့် အကယ်၍ ၎င်းအစုရှယ်ယာသည် ဖိတ်ခေါ်ထားသော အစုရှယ်ယာအပေါ် ရုပ်သိမ်းရန်တာဝန် ရှိ/မရှိကို ဖော်ပြထားရမည်။

၂၆(၂ ) အကယ်၍ အခန်း(၂၇)တွင်ဖော်ပြထားသော နို့တစ်စာသည် ပေးချေရမည့် အစုရှယ်ယာနှင့် ပတ်သက်၍ ပေးချေမှုပြုလုပ်ရန် နို့တစ်စာပေးပို့ရန်မပြုလုပ်မီ အစုရှယ်ယာရှင်များ၏ ဆုံးဖြတ်ချက်ဖြင့် ရုပ်သိမ်းရန်နှင့် ထို ရုပ်သိမ်းချက်တွင် အစုအမြတ်များ သို့မဟုတ် ရုပ်သိမ်းချက်နှင့် ဆိုင်သောအခြားပေးချေရန်ရှိသည်များကိုပါဝင်ရမည်။ ၎င်းတို့ကိုရုပ်သိမ်းခြင်းမတိုင်မီပေးချေရန် မလိုအပ်ပေ။ ဘုတ်အဖွဲ့မှနေ၍ အစုရှယ်ယာများရုပ်သိမ်းရန် သဘောတူထားသော စည်းမျဉ်းစည်းကမ်းများကိုလက်ခံရန်နှင့် ၎င်းကာလစည်းကမ်းချက်နှင့်ပတ်သက်၍ ရုပ်သိမ်းပြီးအစုရှယ်ယာ ဖြစ်လျှင် ဆန္ဒအလျောက် စွန့်လွှတ်သောအစုရှယ်ယာများအဖြစ် သဘောထားမှတ်ယူရမည်။

၂၆(၃ ) အထက်ဆိုခဲ့သောအစုရှယ်ယာကို ၎င်းအပေါ် ဘုတ်အဖွဲ့များမှ ဆုံးဖြတ်ထားထားသည့်အတိုင်း စွန့်လွှတ်ပြီးသော အစုရှယ်ယာများကို ယခင်စွန့်လွှတ်ခဲ့သောသူထံသို့လည်းကောင်း အခြားမည်သည့် ပုဂ္ဂိုလ်ထံသို့မဆိုလည်းကောင်း ပြန်လည်ခွဲဝေပေးနိုင်သည် သို့မဟုတ် ပြန်လည်ရောင်းချနိုင်ပါသည် သို့မဟုတ် ရောင်းချခြင်းမရှိမီ ပြန်လည်ခွဲဝေခြင်းမပြုမီ သို့မဟုတ် အခြားနည်းရုပ်သိမ်းခြင်းနည်းလမ်းတို့ဖြင့် ဘုတ်အဖွဲ့မှ သင့်သည်ထင်သည်အတိုင်းဆုံးဖြတ်နိုင်သည်။

၂၆(၄) ရုပ်သိမ်းပြီးသော မည်သူ၏အစုရှယ်ယာကိုမဆို ကုမ္ပဏီသို့ ဖျက်သိမ်းကြောင်း အထောက်အထားပေးပို့ရမည်။ ရုပ်သိမ်းပြီးသော်လည်း ကုမ္ပဏီသို့ပေးရန် ကျန်ရှိနေသေးသော ငွေများကို

ငင်း၏ကိုယ်စားလှယ်မှနေ၍ ရုပ်သိမ်းခြင်းမပြုလုပ်မီ ငင်းငွေထံအပေါ် ပေးရမည့်အတိုးနှင့် ပေးဆောင်ရန် ရှိသည်များကို သင့်လျော်သော အချိန်တွင် ကုမ္ပဏီသို့ ပေးပို့ရမည်။

၂၆(၅) ဒါရိုက်တာ(၃)ဦး၏ ပြဋ္ဌာန်းထားသော ကြေညာချက်အရ ကုမ္ပဏီ၏အကျိုးရှိစေရန်အလို့ငှာ ရောင်းချသော သို့မဟုတ် ရုပ်သိမ်းခဲ့သော အစုရှယ်ယာများကို သတ်မှတ်ထားသော ကာလအတွင်း အစုရှယ်ယာအပေါ် ရထိုက်ခွင့်ရှိသော ပုဂ္ဂိုလ်များအားလုံး၏ တောင်းဆိုချက်အရ လုံလောက်သော အကြောင်းပြချက်နှင့်အညီ အစုရှယ်ယာအပေါ် ရပိုင်ခွင့်တောင်းနိုင်ပြီး ငင်းကြေညာချက်တွင် (ပစ္စည်းများလွှဲပြောင်းခြင်း ဆုံးဖြတ်ချက်ကို လိုအပ်လျှင်ထည့်သွင်းရမည်) ။

## ၂၇။ အမျိုးမျိုးသော ရှယ်ယာများကို ထုတ်ဝေခွင့် အခွင့်အာဏာ

၂၇(၁) မည်သည့်တည်ရှိနေသောအစုရှယ်ယာများအတွက်ပြဋ္ဌာန်းထားသော အခွင့်အရေးများ မထိခိုက်စေဘဲ ကုမ္ပဏီမှ အစုရှယ်ယာများကို သာမာန်ဆုံးဖြတ်ချက်အရဆုံးဖြတ်ထားသော ကန့်သတ်ချက်များ သို့မဟုတ် အခွင့်အရေးများနှင့် အတူထုတ်ဝေရမည်။

၂၇(၂) ကုမ္ပဏီသည် ပြန်လည်ရွေးယူရမည့် အစုရှယ်ယာများကိုသော်လည်းကောင်း သို့မဟုတ် ကုမ္ပဏီသို့မဟုတ် အစုရှယ်ယာရှင်၏ရွေးခြယ်ရန်တာဝန်ရှိသည့်အစုရှယ်ယာများကသော်လည်းကောင်း ထုတ်ဝေနိုင်သည်။ ဒါရိုက်တာများသည် အဆိုပါရွေးယူရမည့် အစုရှယ်ယာများနှင့်စပ်လျဉ်းပြီး စည်းမျဉ်း၊ စည်းကမ်းများနှင့် နည်းလမ်းများကို သတ်မှတ်ပြဋ္ဌာန်းနိုင်သည်။

## ၂၈။ ကုမ္ပဏီအား အပြည့်အဝအကျိုးစီးပွားများထက်လျော့နည်း၍ သတ်မှတ်မထားခြင်း

ဥပဒေပြဋ္ဌာန်းချက်မှတပါး ကုမ္ပဏီသည် မည်သည့်ပုဂ္ဂိုလ်ကိုမျှ အစုရှယ်ယာအပေါ်တွင် ယုံကြည်အပ်နှံမှုအဖြစ် သတ်မှတ်ခြင်းမပြုလုပ်ရ။ အစုရှယ်ယာရှင်များ၏ ၎င်းအစုရှယ်ယာအပေါ်တွင် အပြည့်အဝပိုင်ဆိုင်ခွင့်နှင့် ၎င်းအစုရှယ်ယာနှင့် သက်ဆိုင်သည့်အခွင့်အရေးအားလုံးတို့မှတစ်ပါး ကုမ္ပဏီသည် အစုရှယ်ယာတစ်ခု၏ မည်သည့်အကျိုးစီးပွားကိုမဆို ချည်နှောင်ထားခြင်း သို့မဟုတ် အသိအမှတ်ပြုထားခြင်းတို့ကို မည်သည့် နည်းနှင့်မျှမပြုလုပ်ရ။

## ၂၉။ အစုရှယ်ယာ လက်မှတ်များ

၂၉(၁) ကုမ္ပဏီသည် အစုရှယ်ယာရှင်တစ်ဦးချင်းစီအား ၎င်းတို့ကိုင်ဆောင်ထားသည့် အစုရှယ်ယာနှင့်စပ်လျဉ်း၍ တစ်ခု သို့မဟုတ် တစ်ခုထက်ပိုသော အစုရှယ်ယာလက်မှတ်များကို အခကြေးငွေတစ်စုံတစ်ရာရယူခြင်းမပြုဘဲ ထုတ်ပေးရမည်။

၂၉(၂) အစုရှယ်ယာလက်မှတ်တစ်ခုစီတိုင်းသည် အောက်ပါတို့ကို သတ်မှတ်ရမည် –

(က) အစုရှယ်ယာများအရေအတွက်နှင့် မည်သည့်အခန်းကဏ္ဍမှထုတ်ဝေပေးသည် စသည်တို့နှင့်ပတ်သက်၍၊

(ခ) ထိုအစုရှယ်ယာများ၏ မူလတန်ဖိုး၊

(ဂ) အစုရှယ်ယာများအတွက် ပေးအပ်ခဲ့သည့် ပမာဏနှင့်

(ဃ) ၎င်းတို့အား ခြားနားသည့် တာဝန်အပ်နှံခြင်းခံရသည့် အရေအတွက်များ။

၂၉(၃) အစုရှယ်ယာတစ်မျိုး သို့မဟုတ် အုပ်စုတစ်ခု ထက်ပိုသောအစုရှယ်ယာအမျိုးအစားအတွက် မည်သည့် အစုရှယ်ယာလက်မှတ်မျှ မထုတ်ပေးရ။

၂၉(၄) အစုရှယ်ယာကို တစ်ဦးထက်ပိုသောသူမှကိုင်ထားဆောင်လျှင် ၎င်းအတွက် အစုရှယ်ယာ လက်မှတ်တစ်ခုသာ ထုတ်ပေးရမည်။

၂၉(၅) အစုရှယ်ယာလက်မှတ်များတွင်–
(က) ကုမ္ပဏီ၏ တံဆိပ် ပါရမည်၊ သို့မဟုတ်
(ခ) တစ်နည်းအားဖြင့် ကုမ္ပဏီများအက်ဥပဒေနှင့်အညီ လက်မှတ်ရေးထိုးထားရမည်။

## ၃၀။ အစုရှယ်ယာလက်မှတ်များအစားထိုးခြင်း

၃၀(၁) အကယ်၍ အစုရှယ်ယာရှင်၏ အစုရှယ်ယာလက်မှတ်သည် –
(က) ပျက်စီး သို့မဟုတ် မှေးမှိန်ပျက်ပြားလျှင် သို့မဟုတ်
(ခ) ပျောက်ဆုံးခြင်း၊ ခိုးယူခံရခြင်း သို့မဟုတ် ဖျက်ဆီးခြင်းခံရသည်ဟုဆိုလျှင် အဆိုပါ အစုရှယ်ယာရှင်သည် ၎င်းအစုရှယ်ယာများအတွက် အစားထိုး အစုရှယ်ယာလက်မှတ် ထုတ်ယူနိုင်သည်။

၃၀(၂) ၎င်းအစားထိုး အစုရှယ်ယာလက်မှတ်များအားပြန်လည်ထုတ်ဝေခွင့်ကို ကျင့်သုံးနိုင်သည့် အစုရှယ်ယာရှင်သည် –
(က) သီးခြားလက်မှတ်များ သို့မဟုတ် လက်မှတ်တစ်ခုတည်းအဖြစ် ထုတ်ဝေပိုင်ခွင့်ကို တစ်ပြိုင်နက်တည်း ကျင့်သုံးနိုင်သည်၊
(ခ) အကယ်၍ ယင်းသည် ပျက်စီး သို့မဟုတ် မှေးမှိန်ပျက်ပြားလျှင် ကုမ္ပဏီသို့ အစုရှယ်ယာလက်မှတ်အား ပြန်လည်ပေးပို့ရမည်၊နှင့်
(ခ) အကယ်၍ ၎င်းလက်မှတ်သည် ပျက်စီး သို့မဟုတ် မှေးမှိန်ပျက်ပြားလျှင် ပြန်လည် အစားထိုးရမည့် လက်မှတ်ကို ကုမ္ပဏီအား ပြန်လည် အပ်နှံရမည်၊
(ဂ) သက်သေခံရန်၊ လျော်ကြေးငွေရရန် နှင့် ဒါရိုက်တာများဆုံးဖြတ်ချက်အတိုင်း လျော်ကန်သင့်မြတ်သည့်အခကြေးငွေပေးချေရန် စသည်တို့အတွက် အဆိုပါသတ်မှတ်ချက်များနှင့် အညီ လိုက်နာဆောင်ရွက်ရမည်။

## ၃၁။ အစုရှယ်ယာ လွှဲပြောင်းခြင်းများ

၃၁(၁) အစုရှယ်ယာများသည် လွှဲပြောင်းသူ သို့မဟုတ် ကိုယ်စားလှယ် ဆောင်ရွက်ပေးသည့် ဒါရိုက်တာများမှ အသိအမှတ်ပြုသည့် အစုရှယ်ယာလွှဲပြောင်းခြင်းဆိုင်ရာ သာမန်ပုံစံအားဖြင့် ဒါရိုက်သော်လည်းကောင်း၊ အစုရှယ်ယာ များကိုလွှဲပြောင်းရမည်။

၃၁(၂) အစုရှယ်ယာလွှဲပြောင်းခြင်းဆိုင်ရာ စာရွက်စာတမ်းများ မှတ်ပုံတင်ခြင်းအတွက် သို့မဟုတ် အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် သက်ဆိုင်သည့် အခြားစာရွက်စာတမ်းများ အတွက်မဆို မည်သည့် အခကြေးငွေကို ကုမ္ပဏီက ပေးသွင်း စရာမလိုပါ။

၃၁(၃) ကုမ္ပဏီသည် မှတ်ပုံတင်ထားသည့် မည်သည့်စာရွက်စာတမ်းကိုမဆို ထိန်းသိမ်းထားရမည်။

၃၁(၄) အစုရှယ်ယာရှင်ကို လွှဲပြောင်းခြင်းခံရသူ၏ အမည်သည် အစုရှယ်ယာရှင် စာရင်းတွင် အမည် ထည့်သွင်းပြီး သည်အထိ လွှဲပြောင်းသူသည် အစုရှယ်ယာရှင်အဖြစ် တည်ရှိသည်။

၃၁(၅) အစုရှယ်ယာများ လွှဲပြောင်းခြင်း၊ အပ်နှံခြင်း၊ ပေါင်နှံခြင်း သို့မဟုတ် အခြားနည်းဖြင့် လွှဲပြောင်းခြင်းတို့သည် ဒါရိုက်တာဘုတ်အဖွဲ့၏ကြိုတင်သဘောတူညီချက်ကိုရယူရန် လိုအပ်သည် သို့မဟုတ် အစုရှယ်ယာရှင်များအကြား သဘောတူညီချက်ကို အထောက်အထား ပြုရမည်။

ဒါရိုက်တာဘုတ်အဖွဲ့သည် ၎င်း၏တစ်ဦးတည်းဆုံးဖြတ်ပိုင်ခွင့်အရ မည်သည့် အစုရှယ်ယာ လွှဲပြောင်းမှုကိုမဆို မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။ အစုရှယ်ယာများ လွှဲပြောင်းခြင်းသည် အစုရှယ်လယာလွှဲပြောင်းခြင်းဆိုင်ရာမှတ်ပုံတင်စာအုပ်တွင် မှတ်ပုံတင်ခြင်းအားဖြင့် အကျိုး သက်ရောက်မှုရှိသည်။

## ၃၂။ သေဆုံးသူအစုရှယ်ယာရှင်၏ အစုရှယ်ယာများအား လွှဲပြောင်းခြင်း

၃၂(၁) အစုရှယ်ယာပိုင်ဆိုင်ခွင့်သည် လက်ခံရရှိသူထံသို့ လွှဲအပ်ခဲ့လျှင်လျှင်ကုမ္ပဏီသည် ၎င်းလက်ခံ ရရှိသူအား အစုရှယ်ယာအပေါ် ပိုင်ဆိုင်ခွင့်ရှိသည်ဟု အသိအမှတ် ပြုနိုင်သည်။

၃၂(၂) ဒါရိုက်တာများမှ တောင်းဆိုခြင်းအရအစုရှယ်ယာပိုင်ဆိုင်ခွင့် အထောက်အထားကိုတင်ပြသည့် လွှဲအပ်ခြင်းကို လက်ခံရရှိသူသည် –

(က) သင်းဖွဲ့စည်းမျဉ်းများအရ ထိုအစုရှယ်ယာများကို ပိုင်ဆိုင်သူ အဖြစ်လည်းကောင်း သို့မဟုတ် ၎င်းတို့ကို အခြားသူထံသို့ လွှဲပြောင်းရန် သော်လည်းကောင်း ရွေးခြယ် နိုင်သည်၊

(ခ) သင်းဖွဲ့စည်းမျဉ်းများအရ အခြားသူထံသို့ အစုရှယ်ယာများလွှဲပြောင်းခြင်း ဆိုင်းငံ့မှု သည် ၎င်းပိုင်ဆိုင်သူနည်းတူ လုပ်ပိုင်ခွင့်များရှိသည်။

ပိုင်ဆိုင်သူ၏ သေဆုံးခြင်း သို့မဟုတ် ဒေဝါလီခံရခြင်း သို့မဟုတ် အခြားအကြောင်းပြချက် တစ်ရပ်ရပ်အရ ၎င်းတို့အနေဖြင့် ပိုင်ဆိုင်ခွင့်ရှိသည့် အစုရှယ်ယာများနှင့်ပတ်သက်ပြီး လွှဲအပ် ခြင်းကိုလက်ခံရရှိသူများသည် ၎င်းအစုရှယ်ယာများကိုပိုင်ဆိုင်သူများဖြစ်လာခြင်း မတိုင်ခင် အထိ အထွေထွေအစည်းအဝေး တက်ရောက်ရန် သို့မဟုတ် မဲပေးရန်၊ သို့မဟုတ် အဆိုပြုရေး မှတ်ထားသည့် ဆုံးဖြတ်ချက်အား သဘောတူရန် စသည်တို့အတွက် တောင်းဆိုပိုင်ခွင့်မရှိ။

## ၃၃။ လွှဲပြောင်းခံရသူများ၏ အခွင့်အရေးများကို ကျင့်သုံးခြင်း

၃၃(၁) မည်သည့် လွှဲပြောင်းခံရသူမဆို ၎င်းတို့ပိုင်ဆိုင်ခွင့်ရှိသော အစုရှယ်ယာများ၏ အစုရှယ်ယာရှင် ဖြစ်လိုသော ဆန္ဒရှိလျှင် ထိုသို့ဆန္ဒရှိကြောင်းကို ကုမ္ပဏီသို့ ရေးသားအကြောင်းကြားရမည်။

၃၃(၂) လွှဲပြောင်းခံရသူသည် အခြားသူထံသို့ အစုရှယ်ယာများ လွှဲပြောင်းလိုလျှင် ထိုသူသည် လွှဲပြောင်းခြင်းဆိုင်ရာစာချုပ်ကို ချုပ်ဆိုရမည်။

၃၃(၃) ဤစည်းမျဉ်းအရ ပြုလုပ်သော သို့မဟုတ် ချုပ်ဆိုသော မည်သည့်လွှဲပြောင်းမှုမဆို ၎င်းသည် အစုရှယ်ယာနှင့်ပတ်သက်သည့် လက်ခံရရှိသူမှဆင်းသက်သည့် လုပ်ပိုင်ခွင့်များမှ ပြုလုပ် သို့မဟုတ် ချုပ်ဆိုခဲ့ခြင်းဖြစ်ဘိသကဲ့သို့နှင့် တစ်ဆင့်လွှဲပြောင်းခြင်းမဖြစ်ဘိသကဲ့သို့ မှတ်ယူရမည်။

## ၃၄။ ကြိုတင်အကြောင်းကြားစာများဖြင့် လိုက်နာဆောင်ရွက်ရသည့် လွှဲပြောင်းလက်ခံသူများ

အစုရှယ်ယာများနှင့် ၎င်းအစုရှယ်ယာများကို ပိုင်ဆိုင်ခွင့်ရှိသောလွှဲပြောင်း လက်ခံသူများနှင့် ပတ်သက်၍ အစုရှယ်ယာရှင်ထံသို့ နို့တစ်စာပေးပို့ခဲ့လျှင် လွှဲပြောင်းလက်ခံသူ၏အမည်အား အဖွဲ့ဝင်များ မှတ်ပုံတင်စာရင်း၌ ထည့်သွင်းခြင်းမတိုင်ခင် ၎င်းနို့တစ်စာကို အစုရှယ်ယာရှင်အား ပေးပို့ခဲ့ပြီးဖြစ်လျှင် လွှဲပြောင်းလက်ခံသူသည် ၎င်းနို့တစ်စာအတိုင်း လိုက်နာဆောင်ရွက်ရမည်။

# အမြတ်ဝေစုများနှင့် အခြားသော ပေးဝေခြင်းများ

## ၃၅။ အမြတ်ဝေစုများ ကြေညာခြင်းလုပ်ထုံးလုပ်နည်း

၃၅(၁) ကုမ္ပဏီသည် အမြတ်ဝေစုများကို သာမန်ဆုံးဖြတ်ချက်ဖြင့် ကြေညာနိုင်ပြီး ဒါရိုက်တာများသည် ကြားဖြတ် အမြတ်ဝေစုကိုပေးရန် ဆုံးဖြတ်နိုင်သည်။

၃၅(၂) ဒါရိုက်တာများမှ အမြတ်ဝေစုများ၏ ပမာဏအပေါ် ထောက်ခံချက် မပေးလျှင် အမြတ်ဝေစုကို ကြေညာခြင်းမပြုရ။ ၎င်းအမြတ်ဝေစုသည် ဒါရိုက်တာများမှ ထောက်ခံချက်ပေးသည့် ပမာဏထက် မကျော်လွန်ရ။

၃၅(၃) အစုရှင်များနှင့်သက်ဆိုင်သည့် အခွင့်အရေးများအရ မဟုတ်လျှင် မည်သည့်အမြတ်ဝေစုကိုမျှ ကြေညာခြင်း သို့မဟုတ် ပေးချေခြင်း မပြုလုပ်ရ။

၃၅(၄) ထိုသို့ကြေညာရန် အစုရှယ်ယာရှင်များ၏ ဆုံးဖြတ်ချက် သို့မဟုတ် အမြတ်ဝေစုကို ပေးချေရန် ဒါရိုက်တာများ၏ ဆုံးဖြတ်ချက်မှလွဲ၍ ထုတ်ပေးသည့် အစုရှယ်ယာများ၏ သက်တမ်းကာလများ၊ တစ်နည်းအားဖြင့် သတ်မှတ်ချက်များမပါခဲ့လျှင်၊ ကြေညာရန် သို့မဟုတ် ပေးချေရန် ဆုံးဖြတ်ချက် သို့မဟုတ် ဆုံးဖြတ်ချက်ချသည့်နေ့တွင် အစုရှယ်ယာများကို ပိုင်ဆိုင်သည့် အစုရှယ်ယာရှင်တစ်ဦးချင်းစီအား ထောက်ခံချက်ဖြင့်ပေးရမည်။

၃၅(၅) ကုမ္ပဏီ၏ အစုရှယ်ယာမတည်ငွေသည် အမျိုးအစားများ ကွဲပြားခဲ့သော် ကွဲပြားသည့် အစုရှယ်ယာများ သို့မဟုတ် ဦးစားပေးမဟုတ်သည့် လုပ်ပိုင်ခွင့်များအတွက် ပေးချေသည့်အချိန်နှင့် ဦးစားပေး အမြတ်ဝေစုသည် အကြွေးကျန်နေလျှင် မည်သည့်ကြားဖြတ်အမြတ်ဝေစုကိုမျှ ပေးချေခြင်းမပြုရပါ။

## ၃၆။ အမြတ်ဝေစုပေးချေမှု နှင့်အခြားသောပေးဝေခြင်းများ

၃၆(၁) အစုရှယ်ယာနှင့်စပ်လျဉ်း၍ ပေးဝေရမည့် အမြတ်ဝေစု သို့မဟုတ် အခြားပေးဝေခြင်းများအား အောက်ပါ နည်းလမ်းတစ်ရပ်ရပ် သို့မဟုတ် နည်းလမ်းများဖြင့် ပေးချေရမည်-

(က) ဖြန့်ချီခြင်းကိုလက်ခံသူမှ စာဖြင့်ရေးသား၍သော်လည်းကောင်း သို့မဟုတ် ဒါရိုက်တာများမှ အခြားဆုံးဖြတ်ခြင်းအားဖြင့်သော်လည်းကောင်း သတ်မှတ်ထားသည့် ဘဏ်စာရင်းသို့ လွှဲပေးရန်၊

(ခ) ဖြန့်ချီခြင်းကိုလက်ခံရရှိသူ၏မှတ်ပုံတင်ထားသည့် နေရပ်လိပ်စာသို့ (ဖြန့်ချီခြင်းကိုလက်ခံသူသည် အစုရှယ်ယာရှင်ဖြစ်နေလျှင်) သို့မဟုတ် (အခြားကိစ္စ၌) ဖြန့်ချီခြင်းကိုလက်ခံသူမှ စာဖြင့်ရေးသားထား၍သော်လည်းကောင်း သို့မဟုတ် ဒါရိုက်တာများမှ ဆုံးဖြတ်ခြင်းအားဖြင့် သတ်မှတ်ထားသည့်နေရာသို့ ဖြန့်ချီခြင်းကိုလက်ခံသူအား ပေးချေမှုပေးနိုင် စေသည့် ချက်လက်မှတ်ပေးပို့ခြင်း၊

(ဂ) အဆိုပါပုဂ္ဂိုလ်ကိုပေးချေရမည့်ချက်လက်မှတ်အား စာတိုက်မှပေးပို့ရာတွင် အဆိုပါပုဂ္ဂိုလ်က ပေးဝေခြင်းကိုလက်ခံသူအဖြစ် စာဖြင့်ရေးသားထားခြင်း သို့မဟုတ် ဒါရိုက်တာများက အခြားဆုံးဖြတ်ချက် ပြုလုပ်ထားခြင်းဖြင့် သတ်မှတ်ထားသည့် အဆိုပါလိပ်စာသို့ ပေးပို့ခြင်း၊

(ဃ) ဒါရိုက်တာများနှင့် ပေးဝေခြင်းကိုလက်ခံသူမှ စာဖြင့်ရေးသား သဘောတူထားသည့် သို့မဟုတ် ဒါရိုက်တာများက ဆုံးဖြတ်သည့် ပေးချေမှုဆိုင်ရာ အခြား နည်းလမ်းများ။

၃၆(၂) ဤသင်းဖွဲ့စည်းမျဉ်းများ၌ 'ပေးဝေခြင်းကိုလက်ခံသူ' ဆိုသည်မှာ အစုရှယ်ယာနှင့် အမြတ်ဝေစု တစ်စုံတစ်ရာ သို့မဟုတ် အခြားပေးချေရမည့်ငွေပေါင်းနှင့်စပ်လျဉ်းသည့် အစုရှယ်ယာ တစ်စုံတစ်ရာသည် -

(က) အစုရှယ်ယာ ကိုင်ဆောင်ထားသူ၊ သို့မဟုတ်၊

(ခ) အစုရှယ်ယာသည် ကိုင်ဆောင်ထားသူ နှစ်ဦး သို့မဟုတ် နှစ်ဦး ထက်ပို၍ ပူးတွဲကိုင်ဆောင်ထားလျှင် ၎င်းတို့ထဲမှ အဖွဲ့ဝင်များမှတ်ပုံတင်စာရင်းတွင် ပထဦးဆုံး အမည်ရေးသွင်းခြင်းခံရသူ၊ သို့မဟုတ်၊

(ဂ) အစုရှယ်ယာကိုင်ဆောင်ထားသူသည် သေဆုံးခြင်း သို့မဟုတ် ဒေဝါလီခံရခြင်း အကြောင်းကြောင့် သို့မဟုတ် တစ်နည်းအားဖြင့် ဥပဒေအရတားမြစ်ထားမှုကြောင့် စာရင်းမဝင်တော့လျှင်၊ လွှဲပြောင်းခံရသူ တို့ကို ဆိုလိုပါသည်။

## ၃၇။ အခြားသောပေးဝေခြင်းများအပေါ် အတိုးငွေမရှိခြင်း

ကုမ္ပဏီသည် အောက်ပါသတ်မှတ်ချက်များမရှိလျှင် အစုရှယ်ယာနှင့်စပ်လျဉ်း၍ ပေးဝေရမည့် အမြတ်ဝေစု သို့မဟုတ် ပေးချေရမည့်ငွေပေါင်းအပေါ်တွင် အတိုးငွေမပေးရ-

(က) အစုရှယ်ယာများ ထုတ်ပေးခဲ့သည့် သက်တမ်းကာလများ သို့မဟုတ်၊

(ခ) အစုရှယ်ယာကိုင်ဆောင်ထားသူနှင့် ကုမ္ပဏီအကြား အခြားသဘောတူ ပြဋ္ဌာန်းချက်များ။

## ၃၈။ ထုတ်ဖော်ခြင်းမရှိသည့် ပေးဝေခြင်းများ

၃၈(၁) အမြတ်ဝေစု သို့မဟုတ် အခြားငွေပေါင်းများသည် –

(က) အစုရှယ်ယာများနှင့်ပတ်သက်၍ ပေးချေရန်ရှိခြင်း၊ နှင့်

(ခ) ကြေငြာခဲ့ပြီး သို့မဟုတ် ပေးချေရန်ရှိပြီးနောက် ထုတ်ဖော်မပြခြင်း၊ ရင်းနှီးမြှုပ်နှံခဲ့ပြီး သို့မဟုတ် တစ်နည်းအားဖြင့် ထုတ်ဖော်မပြခင်ထိ ကုမ္ပဏီ၏အကျိုးအလို့ငှာ ဒါရိုက်တာများမှ ထုတ်သုံးခြင်း။

၃၈(၂) အမြတ်ဝေစု သို့မဟုတ် အခြားငွေပေါင်း တို့အတွက် ငွေပေးချေမှုအား သီးခြားစာရင်းအဖြစ် ပေးချေမှုသည် ကုမ္ပဏီအား အဆိုပါကိစ္စရပ်အတွက် ယုံကြည်မှုကိုအပ်နှံသူအဖြစ် ပြုလုပ်ခြင်း မဟုတ်ပေ။

၃၈(၃) အကယ်၍–

(က) အမြတ်ဝေစု သို့မဟုတ် အခြားငွေပေါင်း ပေးချေရမည့် အချိန်ကျသည့်နေ့မှ တစ်ဆယ့်နှစ် (၁၂) နှစ် ကျော်လွန်လျှင်နှင့်၊

(ခ) ပေးဝေခြင်းကိုလက်ခံသူမှ ၎င်းကို ထုတ်ဖော်ခြင်းမရှိလျှင်၊ပေးဝေခြင်းကိုလက်ခံသူသည် အမြတ်ဝေစု သို့မဟုတ် အခြားငွေပေါင်းအား ခံစားပိုင်ခွင့် မရှိတော့ဘဲ ကုမ္ပဏီ၏ ကြွေးတင်ခြင်းသည်လည်း ရပ်တန့်စေသည်။

## ၃၉။ ငွေသားမပါသည့် ပေးဝေခြင်းများအား တားမြစ်ခြင်း

ကုမ္ပဏီသည် အစုရှယ်ယာနှင့် ပတ်သက်၍ တူညီသည့် တန်ဖိုး၏ ငွေသားမပါသည့် အခြေပစ္စည်းများ (ကန့်အသတ်မရှိခြင်း၊ ကုမ္ပဏီ၏ အစုရှယ်ယာများ သို့မဟုတ် အခြားသော အာမခံများ အပါအဝင်) ကို လွှဲပြောင်းခြင်းအားဖြင့် အားလုံး သို့မဟုတ် တစ်စိတ်တစ်ပိုင်းကို ပေးချေရန် ဆုံးဖြတ်ရပါမည်။

## ၄၀။ ပေးဝေခြင်းများကို စွန့်လွှတ်ခြင်းတရားဝင်စာ။

ပေးဝေခြင်းကိုလက်ခံသူများသည် ၎င်းတို့ခံစားပိုင်ခွင့်ရှိသည့် အမြတ်ဝေစုအား သို့မဟုတ် အစုရှယ်ယာနှင့်ပတ်သက်သည့် ပေးချေရမည့်ပေးဝေခြင်းများကို စာဖြင့်ရေးသားပြီး ကုမ္ပဏီထံသို့ နို့တစ်စာ ပေးပို့ အကြောင်းကြားပြီး စွန့်လွှတ်နိုင်သည်။ သို့ရာတွင် အကယ်၍

(က) လျှင်အစုရှယ်ယာအား ကိုင်ဆောင်ထားသူ တစ်ဦးထက်ပိုနေလျှင်၊ သို့မဟုတ်

(ခ) လျှင်အစုရှယ်ယာကိုင်ဆောင်ထားသူတစ်ဦး သို့မဟုတ် ပူးတွဲကိုင်ဆောင်ထားသူများ သေဆုံးခြင်း သို့မဟုတ် ဒေဝါလီခံရခြင်း အကြောင်းများကြောင့် အစုရှယ်ယာအား ပုဂ္ဂိုလ်တစ်ဦးထက် ပိုသော သူများက ပိုင်ဆိုင်ခွင့်ရှိလျှင်၊

သို့မဟုတ် တစ်နည်းအားဖြင့်ဆိုသော် နို့တစ်စာသည် အစုရှယ်ယာရှင်အားလုံး သို့မဟုတ် အစုရှယ်ယာပိုင်ဆိုင်ခွင့်ရှိသူများအား ပေးပို့ရန် သို့မဟုတ် လက်မှတ်ရေးထိုးရန် မသတ်မှတ်ခဲ့လျှင် ထိုနို့တစ်စာသည် အကျိုးသက်ရောက်မှု မရှိပါ။

# အမြတ်များအပေါ် ရင်းနှီးမတည်ခြင်း

**၄၁။ ရင်းနှီးမတည်ခြင်းနှင့် ရင်းနှီးမတည်ရန်လျာထားသည့်ငွေပမာဏဆိုင်ရာ အခွင့်အာဏာ**

၄၁(၁) သင်းဖွဲ့စည်းမျဉ်းများအရ အကယ်၍ သာမန်ဆုံးဖြတ်ချက်အားဖြင့် လုပ်ပိုင်ခွင့်ရှိခဲ့လျှင် ဒါရိုက်တာ များသည်–

(က) ကုမ္ပဏီ၏ အမြတ်များအပေါ် ရင်းနှီးမတည်ရန် (၎င်းတို့သည် ခွဲဝေခွင့်ရမရ) ဦးစားပေး အမြတ်ဝေစုပေးရန်မလိုသည့် သို့မဟုတ် အစုရှယ်ယာ၏ ပရီမီယံစာရင်းဆိုင်ရာ ကုမ္ပဏီ ၏ ချေးငွေလက်မှတ်အတွက် ရပ်တည်ပေးသည့် ပမာဏကို ဆုံးဖြတ်ပေးနိုင်သည်။

(ခ) ရင်းနှီးမတည်ရန် ('အရင်းနှီးပြုသည့် ငွေပမာဏ') ဆုံးဖြတ်ခဲ့သည့် ပမာဏကို၎င်း၌ ခံစားခွင့်ရှိသူများအား အမြတ်ဝေစု(ရပိုင်ခွင့်ရှိသူ)နှင့်တူညီသည့် အစိတ်အပိုင်းများ သူများအား ပေးဝေသည့်ပုံစံဖြင့် ပေးဝေခဲ့သည့် ငွေပမာဏအား လျာထားနိုင်သည်။

၄၁(၂) ရင်းနှီးမတည်သည့် ငွေပမာဏများသည် သက်ဆိုင်စေရမည်။

(က) ရပိုင်ခွင့်ရှိသူများ၏ ကိုယ်စားနှင့်

(ခ) ၎င်းတို့အား ပေးဝေမည့် အမြတ်ဝေစုအဖြစ် အချိုးအစားများ တူညီစွာ။

၄၁(၃) အရင်းနှီးပြုသည့် ငွေပမာဏသည် ခံစားခွင့်ရှိသူများအား ခွဲဝေပေါင်းထည့်ထားသည့် အရင်းနှီး ပြုသည့်ငွေပမာဏနှင့်တူညီသည့် သို့မဟုတ် ၎င်းတို့သွန်ကြားသည့်အတိုင်း အစုရှယ်ယာ အသစ်၏ အနည်းဆုံး ပမာဏပေါင်းထည့်ခြင်းတွင် သက်ဆိုင်စေနိုင်သည်။

၄၁(၄) ဖြန့်ဝေခြင်းအတွက် ရရှိနိုင်သည့် အမြတ်များမှ လျာထားခဲ့သည့် ရင်းနှီးမတည်ငွေသည် ကုမ္ပဏီ ၏ ရပိုင်ခွင့်ရှိသူများအား သို့မဟုတ် ဒါရိုက်တာများမှညွှန်ကြားသည့်အတိုင်း အပြည့်အဝ ပေးချေ မှုအဖြစ် ခွဲဝေထည့်သွင်းပေးသည့် ချေးငွေလက်မှတ်များ ပေါင်းထည့်ခြင်းတွင် သက်ဆိုင်စေနိုင် သည်။

၄၁(၅) သင်းဖွဲ့စည်းမျဉ်းများအရ ဒါရိုက်တာများသည်–

(က) သင်းဖွဲ့စည်းမျဉ်းများ ၄၂(၃)နှင့်၄၂(၄)အရ တစ်နည်းမဟုတ် အခြားနည်းနှင့် လိုက်လျော ညီထွေစွာ မတည်ရင်းနှီးသည့် ငွေပမာဏများကို အသုံးချနိုင်သည်၊

(ခ) သင့်တော်သည်ဟုထင်လျှင် အစုရှယ်ယာ သို့မဟုတ် ဤသင်းဖွဲ့စည်းမျဉ်းအရ ခွဲဝေ၍ရသည့် အစိတ်အပိုင်းများဖြစ်လာသည့် ချေးငွေလက်မှတ်များ (ကဏ္ဍဆိုင်ရာ လက်မှတ်များ ထုတ်ပေးခြင်း သို့မဟုတ် ငွေသားနှင့်ပေးချေမှုများ အပါအဝင်) နှင့် သင့်သည်ထင် မြင်သည့် အစီအမံများ ပြုလုပ်နိုင်သည်။

(ဂ) အစုရှယ်ယာများခွဲဝေမှုနှင့် ဤပုံစံမျဉ်းအရ ၎င်းတို့အား ချေးငွေလက်မှတ် ပေးခြင်းနှင့် စည်းနှောင်ပတ်သက်သည့် ရပိုင်ခွင့်ရှိသူများကိုယ်စား ကုမ္ပဏီနှင့် သဘော တူညီမှုတွင် မည်သူမဆိုပါဝင်ခွင့်ပေးနိုင်သည်။

# အပိုင်း ၄
# အစုရှယ်ယာရှင်များမှဆုံးဖြတ်ချက်ချမှတ်ခြင်း
## အထွေထွေအစည်းအဝေးများ စီစဉ်ခြင်း

## ၄၂။ အထွေထွေအစည်းအဝေးများ ခေါ်ဆိုခြင်း

အထွေထွေအစည်းအဝေးကျင်းပခြင်းဆိုင်ရာ နို့တစ်စာများသည် ဘုတ်အဖွဲ့ဥက္ကဋ္ဌ သို့မဟုတ် မန်နေးဂျင်းဒါရိုက်တာမှ စာတိုက်၊ မိတ္တူပုံစံ သို့မဟုတ် အီးမေးလ်မှတစ်ဆင့် ကုမ္ပဏီ၏ အစုရှယ်ယာစာရင်းထဲ၌ ပါဝင်သည့်အစုရှယ်ယာရှင်များသို့ နှစ်စဉ်အထွေထွေအစည်းအဝေးနှင့် အထူးဆုံးဖြတ်ချက်များ ပြန်လည်သုံးသပ်ခြင်းဆိုင်ရာ အထွေထွေအစည်းအဝေးကျင်းပရန် သတ်မှတ်သည့်နေ့မတိုင်မီ နှစ်ဆယ့်တစ် (၂၁) ရက် (သို့မဟုတ် ဥပဒေမှ ခွင့်ပြုထားသည့် အချိန်တိုအတွင်း)ထက်နောက်မကျဘဲ၊ အခြားသော ဆုံးဖြတ်ချက်များနှင့် သာမန်ဆုံးဖြတ်ချက်များအား ပြန်လည်သုံးသပ်ခြင်းဆိုင်ရာအထွေထွေအစည်းအဝေးအတွက် တစ်ဆယ့်လေး(၁၄)ရက် (သို့မဟုတ် အစုရှယ်ယာရှင်များမှ တညီတညွတ် သဘောတူထားသည့် အချိန်တိုအတွင်) ထက် နောက်မကျဘဲ ပေးပို့ရမည်။

## ၄၃။ အထွေထွေအစည်းအဝေးများ၌ တက်ရောက်ခြင်းနှင့် စကားပြောခြင်း

၄၃(၁) တစ်စုံတစ်ဦးသည် အစည်းဝေးတက်ရောက်သူများ၊ အစည်းဝေးအတွင်းနှင့်၊ ၎င်းအစည်းဝေးအတွင်း အကြောင်းအရာ သို့မဟုတ် ထင်မြင်ယူဆချက်များရှိနေ၍ ပြောဆိုရေးဆိုခွင့်ရှိသည့် ကဏ္ဍမှဖြစ်နေလျှင် ထိုသူသည် အထွေထွေအစည်း၌ ပြောဆိုပိုင်ခွင့်ဆိုင်ရာ လုပ်ပိုင်ခွင့်များကို အသုံးချနိုင် ခွင့်ရှိသည်။

၄၃(၂) ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်သည် အောက်ပါအချိန်တို့တွင် အထွေထွေအစည်းဝေး၌ မဲပေးခွင့်ဆိုင်ရာလုပ်ပိုင်ခွင့်များကို အသုံးချနိုင်ခွင့်ရှိသည် –

- (က) ထိုသူသည် အစည်းဝေးအတွင်း၌အစည်းဝေး၏ ဆုံးဖြတ်ချက်များကို မဲပေးရာတွင်
- (ခ) ၎င်းဆုံးဖြတ်ချက်များသည် အစည်းဝေးတက်နေသည့် အခြားသူများအားလုံး၏ မဲများနှင့် တစ်ချိန်တည်းတွင် ချမှတ်ခြင်းဟုတ်မဟုတ် ဆုံးဖြတ်ရာ၌ ထိုသူ၏မဲကို ထည့်သွင်း ရေတွက်နိုင်သည်။

၄၃(၃) အထွေထွေအစည်းဝေး၌ တက်ရောက်သူများအား ပြောဆိုပိုင်ခွင့် သို့မဟုတ် မဲပေးပိုင်ခွင့်ပြုနိုင်ရန် သင့်တော်သည်ဟု ထင်မြင်ယူဆလျှင်ဒါရိုက်တာများသည် မည်သည့်အစီအမံများကို မဆိုပြုလုပ်ဆောင်ရွက်နိုင်သည်။

၄၃(၄) အထွေထွေအစည်းဝေး၌ တက်ရောက်သူစာရင်းဆုံးဖြတ်ရာတွင် အစည်းဝေးတက်ရောက်သူနှစ်ဦးထက် ပိုသော အဖွဲ့ဝင်များသည် တူညီသည့်နေရာမှ ဖြစ်နေလျှင်ထိုလုပ်ပိုင်ခွင့်များနှင့်နှင့်သက်ဆိုင် ခြင်းမရှိပါ။

၄၃(၅) မတူညီသည့်နေရာမှ အထွေထွေအစည်းဝေး တက်နေသည့် နှစ်ဦး သို့မဟုတ် နှစ်ဦးထက်ပိုသော အဖွဲ့ဝင်များသည် ၎င်းတို့၌ ပြောဆိုပိုင်ခွင့် (သို့မဟုတ်) မဲပေးပိုင်ခွင့်ရှိသည့် အနေအထားမှ (သို့မဟုတ်ရှိခဲ့လျှင်)ဖြစ်နေလျှင် ၎င်းလုပ်ပိုင်ခွင့်များကိုအသုံးချ(သို့မဟုတ် နိုင်သည်)ခွင့်ရှိသည်။

## ၄၄။ အထွေထွေအစည်းအဝေးများဆိုင်ရာ အနည်းဆုံးကန့်သတ်လူဦးရေ

၄၄(၁) အထွေထွေအစည်းအဝေးတွင် တက်ရောက်သူဦးရေသည် အစည်းဝေးဆိုင်ရာ အနည်းဆုံး ကန့်သတ်ဦးရေနှင့် မကိုက်ညီလျှင် အစည်းအဝေး၏ သဘာပတိခန့်အပ်ခြင်းမှလွဲ၍ မည်သည့် လုပ်ငန်းအကြောင်းကိုမျှ ဆွေးနွေးညှိနှိုင်းခြင်းမပြုရ။ အစည်းဝေးဆိုင်ရာ အနည်းဆုံး ကန့်သတ် ဦးရေသည် လူပုဂ္ဂိုလ် သို့မဟုတ် ကိုယ်စားလှယ်မဲ၏ ထုတ်ပေးထားသည့် အစုရှယ်ယာရှင်များ ၏ အနည်းဆုံး ၅၀ % ဖြစ်ရမည်။

## ၄၅။ အထွေထွေအစည်းအဝေးများ၌ သဘာပတိပြုလုပ်ခြင်း

၄၅(၁) ဘုတ်အဖွဲ့၏ဥက္ကဋ္ဌသည် အထွေထွေအစည်းအဝေးများ၌ တက်ရောက်ပြီး သဘာပတိအဖြစ် ဆောင်ရွက်ရန်ဆန္ဒရှိလျှင် သဘာပတိအဖြစ် ဆောင်ရွက်နိုင်သည်။

၄၅(၂) သဘာပတိသည် အစည်းအဝေးစတင်ရန် မိနစ်သုံးဆယ် အလိုထိ အစည်းဝေးတွင် ရောက်ရှိခြင်း မရှိလျှင် အစည်းဝေးတက်ရောက်သည့် အစုရှယ်ယာရှင်များသည် အစုရှယ်ယာရှင်တစ်ဦးအား သဘာပတိအဖြစ်ဆောင်ရွက်ရန် ရွေးချယ်ခန့်အပ်၍ ထိုအစည်းဝေး၏ သဘာပတိ ခန့်အပ်ခြင်း သည် အစည်းဝေးတွင် ပထမဦးဆုံး ပြုလုပ်ရမည့် တာဝန်ဖြစ်သည်။

၄၅(၃) ဤစည်းမျဉ်းအရ အစည်းဝေးကိုဦးဆောင်သူသည် 'အစည်းဝေး၏သဘာပတိ' ကို ရည်ညွှန်း ပါသည်။

## ၄၆။ ဒါရိုက်တာများနှင့် အစုရှယ်ယာရှင်မဟုတ်သူများမှ အထွေထွေအစည်းအဝေးများ၌ တက်ရောက်ခြင်းနှင့် စကားပြောခြင်း

၄၆(၁) ဒါရိုက်တာများသည် အစုရှယ်ယာရှင်များမဟုတ်သော်လည်း အထွေထွေအစည်းအဝေးများတွင် တက်ရောက် ဆွေးနွေးပြောဆိုနိုင်သည်။

၄၆(၂) အစည်းဝေး၏သဘာပတိသည် အောက်အောက်ပါအခြားပုဂ္ဂိုလ်များကို ခွင့်ပြုချက်ပေးနိုင်သည်–

- (က) ကုမ္ပဏီ၏ အစုရှယ်ယာရှင်မဟုတ်သူများသို့မဟုတ်
- (ခ) တစ်နည်းအားဖြင့် အထွေထွေအစည်းအဝေးနှင့်စပ်လျဉ်း၍ အစည်းအဝေး၌ တက် ရောက်အမှာစကားပြောနိုင်ခွင့်ဆိုင်ရာ အစုရှယ်ယာရှင်များ၏ လုပ်ပိုင်ခွင့်များကို အသုံး ချပိုင်ခွင့် မရှိသူ။

## ၄၇။ ရွှေ့ဆိုင်းခြင်း

၄၇(၁) အထွေထွေအစည်းအဝေးစတင်ရန် မိနစ်သုံးဆယ်အလိုထိ တက်ရောက်သူလူဦးရေသည် အနည်းဆုံးကန့်သတ်လူဦးရေမပြည့်လျှင် သို့မဟုတ်အစည်းအဝေးတွင်း၌ အနည်းဆုံးကန့်သတ်လူဦးရေမပြည့်လျှင် အစည်းအဝေး၏သဘာပတိသည် အစည်းဝေးကို ရွှေ့ဆိုင်းရမည်။

၄၇(၂) အနည်းဆုံးကန့်သတ်လူဦးရေနှင့်ပတ်သက်၍ အောက်ပါအခြေအနေတွင် အစည်းအဝေး၏ သဘာပတိသည် အစည်းဝေးကို ရွှေ့ဆိုင်းရမည် –

(က) အစည်းဝေး အားရွှေ့ဆိုင်းရန် အခြေနေဖြစ်နေလျှင် သို့မဟုတ်၊

(ခ) ရွှေ့ဆိုင်းချက်သည် အစည်းအဝေး တက်ရောက်သူ တစ်ဦးတစ်ယောက်၏ လုံခြုံမှုအတွက်လိုအပ်သည်ဟု သို့မဟုတ် အစည်းအဝေး၏ လုပ်ဆောင်ချက်များသည် မှန်ကန်စွာလည်ပတ်ရန်သေချာမှုကြောင့် လိုအပ်သည်ဟု အစည်းအဝေး၏ သဘာပတိက ထင်မြင်လျှင်။

၄၇(၃) အစည်းအဝေး၏အခြေအနေကြောင့် အစည်းအဝေး၏သဘာပတိအား အထွေထွေအစည်းအဝေး ရွှေ့ဆိုင်းရန် ညွှန်ကြားလာလျှင် ရွှေ့ဆိုင်းရမည်။

၄၇(၄) အထွေထွေအစည်းအဝေးရွှေ့ဆိုင်းရာတွင် အစည်းအဝေး၏သဘာပတိသည် –

(က) ထိုသို့ရွှေ့ဆိုင်းခဲ့ရသည့် အချိန်နှင့် နေရာကို သတ်မှတ်ရမည် သို့မဟုတ် ဒါရိုက်တာများမှ သတ်မှတ်သည့် အချိန်နှင့် နေရာတွင်ပြန်လည်ကျင်းပရမည်ဖြစ်ကြောင်း ဖော်ပြရမည်ဖြစ်ပြီး၊

(ခ) အစည်းအဝေး၏အခြေအနေကြောင့် အစည်းအဝေးရွှေ့ဆိုင်းခြင်းဆိုင်ရာ အချိန်၊ နေရာနှင့် ညွှန်ကြားချက်များကို မှတ်ယူရမည်။

၄၇(၅) အစည်းအဝေးရွှေ့ဆိုင်းပြီးနောက် အစည်းအဝေးသည် တစ်ဆယ့်လေးရက်ထက်ကျော်မှ ပြန်လည်ကျင်းပ ရမည်ဆိုပါက ကုမ္ပဏီသည်၎င်းနှင့်ပတ်သက်၍ အနည်းဆုံးသေချာသည့် (၇) ရက်ကြိုတင် နို့တစ်စာပေးရမည် (အစည်းအဝေးရွှေ့ဆိုင်းသည့်နေ့နှင့် နို့တစ်စာပေးပို့သည့်နေ့ကို ဖယ်ထားရမည်) –

(က) ကုမ္ပဏီ၏ အထွေထွေအစည်းအဝေးတွင်တက်ရောက်ရန် နို့တစ်စာ ပေးပို့ရမည့်ပုဂ္ဂိုလ်များထံသို့၊

(ခ) နို့တစ်စာတွင် ထည့်ရန်သတ်မှတ်ထားသည့် တူညီသည့်အကြောင်းအရာများပါရှိရမည်။

၄၇(၆) အစည်းအဝေးရွှေ့ဆိုင်းခြင်းမရှိခဲ့သည့်တိုင် ညှိနှိုင်းဆွေးနွေး၍မရသည့် မည်သည့် လုပ်ငန်းကိုမျှ ရွှေ့ဆိုင်းခဲ့သည့်အစည်းဝေးတွင် ညှိနှိုင်းဆွေးနွေးခြင်းမပြုရ။

# အထွေထွေအစည်းအဝေးများ၌ မဲပေးခြင်း

## ၄၈။ မဲပေးခြင်း – အထွေထွေ

၄၈(၁) မဲရေတွက်ခြင်းသည် ဤစည်းမျဉ်းများနှင့် ညီထွေစွာ မှန်မှန်ကန်ကန်မဖြစ်ခဲ့လျှင် အထွေထွေ အစည်းအဝေး၏ မဲပေး၍ဆုံးဖြတ်ရမည့်ဆုံးဖြတ်ချက်သည် လက်ထောင်ခြင်းဖြင့် အဆုံးအဖြတ်ပေးရမည်။

၄၈(၂) အစုရှယ်ယာရှင်တိုင်းသည် ၎င်းအစုရှယ်ယာရှင်များမှ ပိုင်ဆိုင်ထုတ်ဝေသည့် အစုရှယ်ယာ တစ်ခု(၁)စီအား လက်ထောင်ခြင်းဖြင့်သော်လည်းကောင်း သို့မဟုတ် စစ်တမ်းကောက်ယူခြင်းဖြင့် မဲတစ်ခုစီ ပေးရမည်။

## ၄၉။ အထွေထွေအစည်းအဝေးများ၌ ရွေးချယ်ခြင်း

အစုရှယ်ယာရှင်များ၏ ဆုံးချက်ဖြတ်ချက်ဆိုင်ရာ အစည်းအဝေး၌ ရွေးချယ်ခြင်း (အခြားနောက်ထပ် သို့မဟုတ် သာမာန် ဆုံးဖြတ်ချက်မပါပဲ) သည် ကိုယ်တိုင် သို့မဟုတ် ကိုယ်စားလှယ်မဲဖြင့် ပါဝင်သည့် ကုမ္ပဏီ၏ ထုတ်ထားသည့် အစုရှယ်ယာအားလုံး၏ အနည်းဆုံး ငါးဆယ့်တစ် (၅၁%) ရာခိုင်နှုန်းကို ပိုင်ဆိုင်သည့် အစုရှယ်ယာရှင်များ၏ ထောက်ခံမဲများအား တောင်းဆိုရမည်။ အစုရှယ်ယာရှင်များ၏ အခြားနောက်ထပ် သို့မဟုတ် သာမာန် ဆုံးဖြတ်ချက်ဆိုင်ရာ အစည်းအဝေး၌ ရွေးချယ်ခြင်းသည် ဥပဒေမှ ချမှတ်ပြီး ကိုယ်တိုင် သို့မဟုတ် ကိုယ်စားလှယ်မဲဖြင့် ပါဝင်သည့် အစုရှယ်ယာရှင်များ၏ ထိုရာခိုင်နှုန်း ထောက်ခံမဲများအား တောင်းဆိုရမည်။

## ၅၀။ မှားယွင်းချက်များနှင့်အငြင်းပွားမှုများ

၅၀(၁) အစည်းအဝေး သို့မဟုတ် မဲပေးခြင်းဆိုင်ရာ အငြင်းပွားမှုဖြစ်ပွား၍ ရွှေ့ဆိုင်းထားသည့် အစည်းအဝေးမှလွဲ၍ အထွေထွေအစည်းအဝေးတွင်မဲပေးမည့်တစ်စုံတစ်ယောက်၏ အရည်အချင်းနှင့် စပ်လျဉ်း၍ မည်သူမျှ ကန့်ကွက်ခြင်းမပြုရ၊ အစည်းအဝေးတွင် ကန့်သတ်ပိတ်ပင်ခြင်းမရှိသည့် မဲတစ်ခုချင်းစီတိုင်းသည် တရားဝင်ဖြစ်သည်။

၅၀(၂) ၎င်းကန့်ကွက်ခြင်းသည် အစည်းအဝေး၏ သဘာပတိထံတင်ပြရမည်ဖြစ်ပြီး ၎င်း၏ဆုံးဖြတ်ချက်သည် နောက်ဆုံးနှင့်အတည်ဖြစ်သည်။

## ၅၁။ ဆန္ဒသဘောထားကောက်ယူသည့်မဲများ

၅၁(၁) ဆုံးဖြတ်ချက်တွင်ပါသည့် လူထုသဘောစစ်တမ်းကောက်၍ ဆုံးဖြတ်ခြင်းသည် ဤကဲ့သို့ တောင်းဆိုနိုင်သည် –

(က) အထွေထွေအစည်းအဝေးတွင် မဲထည့်သွင်းရန် ကြိုတင်တောင်းဆိုခြင်း သို့မဟုတ်

(ခ) အထွေထွေအစည်းအဝေး၌ မဲပေးခြင်းမပြုမီ။

၅၁(၂) ဆန္ဒသဘောထားကောက်ယူ၍ဆုံးဖြတ်ခြင်းသည် –
(က) အစည်းအဝေး၏ သဘာပတိမှ တောင်းဆိုနိုင်သည်၊
(ခ) ဒါရိုက်တာများမှတောင်းဆိုနိုင်သည်
(ဂ) ဆုံးဖြတ်ချက်အား မဲပေးပိုင်ခွင့်ရှိသူနှစ်ဦး သို့မဟုတ် နှစ်ဦးထက်ပိုသောလူများသို့မဟုတ်
(ဃ) ဆုံးဖြတ်ချက်အား မဲပေးပိုင်ခွင့်ရှိသည့် အစုရှယ်ယာရှင်များ အားလုံး၏ စုစုပေါင်း မဲပေးပိုင်ခွင့်များ၏ ဆယ်ပုံတစ်ပုံထက် မနည်းသော ကိုယ်စားပြု ပုဂ္ဂိုလ်တစ်ဦး သို့မဟုတ် ပုဂ္ဂိုလ်များ။

၅၁(၃) လူထုသဘောစစ်တမ်းကောက်ယူရန်တောင်းဆိုမှုသည် ဤသို့ ရုပ်သိမ်းနိုင်သည် –
(က) လူထုစစ်တမ်းမကောက်ယူခင်။
(ခ) အစည်းအဝေး၏ သဘာပတိမှ ပြန်လည်ရုပ်သိမ်းခြင်းကို ခွင့်ပြုခြင်း။

၅၁(၄) လူထုသဘောစစ်တမ်းကောက်ယူခြင်းသည်အစည်း အဝေး၏သဘာပတိမှ ညွှန်ကြားသည့် ပုံစံအတိုင်းဖြစ်ရပါမည်။

## ၅၂။ ကိုယ်စားလှယ်မဲ နို့တစ်စာများတွင်ပါရှိသည့်အကြောင်းအရာ

၅၂(၁) ကိုယ်စားလှယ်မဲများသည် အောက်ပါတို့ကိုဖော်ပြသည့် လက်ရေးနို့တစ်စာ ('ကိုယ်စားလှယ်မဲ နို့တစ်စာ') တစ်ခုတည်းဖြင့်သာ တရားဝင် ခန့်အပ်ရမည် –
(က) ကိုယ်စားလှယ်မဲအား ခန့်အပ်သည့်အစုရှယ်ယာရှင်များ၏ အမည်နှင့် လိပ်စာကို ဖော်ပြခြင်း၊
(ခ) အစုရှယ်ယာရှင်၏ ကိုယ်စားလှယ်မဲအဖြစ် ခန့်အပ်ခံရသူနှင့် ၎င်းပုဂ္ဂိုလ်အား ခန့်အပ်ခဲ့သည့် အထွေထွေအစည်းအဝေးအား ထုတ်ဖော်ခြင်း၊
(ဂ) လက်မှတ်ထိုးသူ သို့မဟုတ် ကိုယ်စားလှယ်မဲအား ခန့်အပ်နေသည့် အစုရှယ်ယာရှင်၏ ကိုယ်စား သို့မဟုတ် ဒါရိုက်တာများမှ ဆုံးဖြတ်သည့်ပုံစံအတိုင်း မှန်ကြောင်း သက်သေပြရန်နှင့်၊
(ဃ) သင်းဖွဲ့စည်းမျဉ်းများနှင့် ကိုက်ညီစွာ ကုမ္ပဏီအားပေးပို့ခဲ့ပြီး ၎င်းနှင့်သက်ဆိုင်သည့် အထွေထွေအစည်းဝေး၏ နို့တစ်တွင် ပါဝင်သည့် ညွှန်ကြားချက်များ။

၅၂(၂) ကုမ္ပဏီသည် ကိုယ်စားလှယ်မဲနို့တစ်စာများကို သီးခြားပုံစံအားဖြင့် ပေးပို့ရန် တောင်းဆိုနိုင်ပြီး မတူညီသည့် ရည်ရွယ်ချက်များအတွက် မတူညီသည့် ပုံစံများကိုလည်း သတ်မှတ်နိုင်သည်။

၅၂(၃) ကိုယ်စားလှယ်မဲ နို့တစ်စာများသည် သူတို့အား တစ်ခု သို့မဟုတ် တစ်ခုထက်ပိုသော ဆုံးဖြတ်ချက်များကိုမဲပေးရန် မည်သို့ခန့်အပ်ရမည်ကို (သို့မဟုတ် ၎င်းကိုယ်စားလှယ်မဲအား မဲမပေးခြင်း) သတ်မှတ်ရမည်။

၅၂(၄) တစ်နည်းအားဖြင့် ကိုယ်စားလှယ်မဲ နို့တစ်စာများသည် ဤသို့ရည်ရွယ်ခဲ့ခြင်းမဟုတ်လျှင်–
(က) ၎င်းအရ ခန့်အပ်ထားသောသူအား အထောက်အပံ့ သို့မဟုတ် အစည်းဝေး၏ ဆုံးဖြတ်ချက်များ ဆိုင်ရာ လုပ်ထုံးများအား မည်သို့မဲပေးရမည်ကို ကိုယ်စားလှယ်မဲ၏ ကိုယ်ပိုင် ဆုံးဖြတ်ချက် ပြုခွင့်ပေးသည်။

(ခ) ရွေးဆိုင်းခဲ့သည့် အထွေထွေအစည်းဝေးနှင့် ၎င်းနှင့်ဆက်စပ်သည့် အစည်းအဝေး၏ ကိုယ်စားလှယ်မဲအားဖြင့် ထိုသူအားခန့်အပ်သည်။

## ၅၃။ ကိုယ်စားလှယ်မဲ နို့တစ်စာများပို့ပေးခြင်း

၅၃(၁) အထွေထွေအစည်းဝေး၌ တက်ရောက် စကားပြော၍ မဲပေးခွင့်ရှိသူ (လက်ထောင်၍ သို့မဟုတ် လူထုသဘောဖြင့်မဲပေးခြင်း)သည် ၎င်းပုဂ္ဂိုလ်အား သို့မဟုတ် ထိုပုဂ္ဂိုလ်ကိုယ်စား ကိုယ်စားလှယ်မဲ နို့တစ်စာများသည် ပေးပို့ခဲ့ပြီးဖြစ်သော်လည်း ထိုရွေးဆိုင်းခဲ့သည့်အစည်းဝေး သို့မဟုတ် ၎င်းအစည်းဝေးတွင် တက်ရောက်ရန် စာရင်းဝင်သေးသည်။

၅၃(၂) ကိုယ်စားလှယ်မဲ နို့တစ်စာအရ ပြုလုပ်သည့် ခန့်အပ်ခြင်းသည် ကုမ္ပဏီအား နို့တစ်စာ ပေးပို့ခြင်းဖြင့် သို့မဟုတ် ထိုနို့တစ်စာပေးပို့ခဲ့သည့်သူ သို့မဟုတ် ၎င်း၏ကိုယ်စား ရုပ်သိမ်းနိုင်သည်။

၅၃(၃) ကိုယ်စားလှယ်မဲ နို့တစ်စာဖြင့်ခန့်အပ်ခြင်းကို ရုပ်သိမ်းခြင်းသည် ၎င်းနှင့်သက်ဆိုင်သည့် အစည်းအဝေး သို့မဟုတ် ရွေးဆိုင်းသည့်အစည်းအဝေးမစတင်မီပေးပို့မှသာလျှင် အကျိုးသက်ရောက်မှုရှိသည်။

၅၃(၄) ကိုယ်စားလှယ်မဲ နို့တစ်စာသည် ကိုယ်စားလှယ်မဲခန့်အပ်သည့် ပုဂ္ဂိုလ်မှ မဆောင်ရွက်လျှင် ၎င်းသည် ခန့်အပ်သူကိုယ်စား ၎င်းကိုဆောင်ရွက်သူ အာဏာအာဏာရှိသူ၏ ထောက်ခံစာနှင့် တွဲဖက်ထားရမည်။

## ၅၄။ ဆုံးဖြတ်ချက်များအား ပြင်ဆင်ခြင်းများ

၅၄(၁) အထွေထွေအစည်းဝေး၌ အဆိုပြုသည့် သာမန်ဆုံးဖြတ်ချက်သည် သာမန်ဆုံးဖြတ်ချက်ဖြင့် အောက်ပါအခြေအနေတွင် ပြင်ဆင်နိုင်သည် –

(က) အဆိုပြုသည့်ပြင်ဆင်ချက် နို့တစ်စာသည် အထွေထွေအစည်းဝေး၌ အဖွဲ့ဝင်က အစည်းဝေးမကျင်းပမီ(၄၈)နာရီအောက် နောက်မကျပဲ ကုမ္ပဏီအား လိပ်မူရေးသားလျှင် (သို့မဟုတ် အစည်းဝေး၏ သဘာပတိမှ သတ်မှတ်သည့် နောက်ဆုံးသတ်မှတ်ချိန်)နှင့်

(ခ) အဆိုပြုပြင်ဆင်မှုသည် အစည်းဝေး သဘာပတိ၏ ထင်မြင်ချက်နှင့် မကိုက်ညီလျှင် ဆုံးဖြတ်ချက်နယ်ပယ်အား ရုပ်ပိုင်းဆိုင်ရာသော်လည်းကောင်း ပြောင်းလဲမှုရှိလျှင်။

၅၄(၂) အထွေထွေအစည်းဝေး၌ အဆိုပြုသည့် သာမန်ဆုံးဖြတ်ချက်သည် သာမန်ဆုံးဖြတ်ချက်ဖြင့် အောက်ပါ အခြေအနေတွင် ပြင်ဆင်နိုင်သည် –

(က) အစည်းဝေး သဘာပတိမှ အထွေထွေအစည်းဝေး၌ အဆိုပြုရမည့် ဆုံးဖြတ်အပေါ် ပြင်ဆင်ချက်ကို အဆိုပြုလျှင် နှင့်

(ခ) ပြင်ဆင်ချက်သည် သဒ္ဒါနည်းအရသော် လည်းကောင်း သို့မဟုတ် ဆုံးဖြတ်ချက်အပေါ် အခြား အခြေအမြစ်မရှိသည့် ပြင်ဆင်ရန် လိုအပ်သည့်အမှား ထက်ကြော်လွန်၍မရပါ။

၅၄(၃) အစည်းအဝေး၏သဘာပတိသည် သစ္စာရှိရှိလုပ်ဆောင်ပြီး ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ချက်အား စည်းမျည်းကိုလွန်ဆန်သည်ဟု မှားယွင်းစွာဆုံးဖြတ်လျှင် ထိုဆုံးဖြတ်ချက်ဆိုင်ရာ မဲပေးခြင်းသည် သဘာပတိ၏ မှားယွင်းမှုကြောင့် တရားဝင်ဖြစ်သည်။

## အပိုင်း ၅
## စီမံခန့်ခွဲမှုဆိုင်ရာ အစီအမံများ

**၅၅။ အသုံးပြုရမည့် ဆက်သွယ်ရေးနည်းစနစ်များ**

၅၅(၁) ဤအခန်းနှင့်ပတ်သက်၍ ကုမ္ပဏီသို့ (သို့မဟုတ်) ကုမ္ပဏီမှ ထောက်ပံ့ရမည့် သို့မဟုတ် ပေးပို့ရမည့် မည်သည့်အရာကိုမဆို အောက်ဖော်ပြပါနည်းလမ်းအတိုင်း ပေးပို့ထောက်ပံ့ရမည်။

(က) ကုမ္ပဏီ၏ မှတ်ပုံတင်ထားသော ရုံးသို့ လက်ရောက်ပေးပို့ခြင်း သို့မဟုတ် စာဖြင့် ပေးပို့ခြင်းနည်းလမ်းအားဖြင့် သို့မဟုတ်–

(ခ) ကုမ္ပဏီ၏ ရည်ရွယ်ချက်အရ သတ်မှတ်ထားသော နေရာသို့လိပ်မူရန်။

၅၅(၂) စည်းမျဉ်းများအရ ဒါရိုက်တာများမှ ဆုံးဖြတ်ချက်များချမှတ်ခြင်းနှင့်စပ်လျဉ်း၍ ဒါရိုက်တာ ထံဆက်သွယ်ပေးသွင်းရမည့် သို့မဟုတ် ပေးပို့ရမည့် စာရွက်စာတမ်းများ သို့မဟုတ် မည်သည့် အကြောင်းစာများ ကိုမဆို အောက်ဖော်ပြပါ နည်းလမ်းများအတိုင်း ပေးပို့ရမည်။ –

(က) ကုမ္ပဏီ၏မှတ်ပုံတင်ထားသောရုံးသို့ လက်ရောက်ပေးပို့ခြင်း သို့မဟုတ် စာဖြင့် ပေးပို့ခြင်းနည်းလမ်းအားဖြင့် သို့မဟုတ်–

(ခ) ကုမ္ပဏီရည်ရွယ်ချက်အရ သတ်မှတ်ထားသောနေရာသို့ လိပ်မူရန်။

၅၅(၃) စာရွက်စာတမ်း သို့မဟုတ် သတင်းအချက်အလက်အား အီလက်ထရောနစ် ပုံစံဖြင့် ပေးပို့ သို့မဟုတ် ပေးသွင်းရန်ကုမ္ပဏီမှ သဘောတူခဲ့လျှင် (ထိုသဘောတူညီချက်ကို ပြန်လည် ရုပ်သိမ်းခြင်းမရှိသေးလျှင်)စာရွက်စာတမ်း သို့မဟုတ် သတင်းအချက်အလက်များကို ကုမ္ပဏီ သို့ ထိုပုံစံ(ယေဘုယအားဖြင့် သို့မဟုတ် တိတိကျကျ) ဖြင့် ပေးပို့ သို့မဟုတ် ပေးသွင်းရမည်။

၅၆(၄) စာရွက်စာတမ်း သို့မဟုတ် သတင်းအချက်အလက်အား အီလက်ထရောနစ် ပုံစံများဖြင့် ပေးပို့ သို့မဟုတ် ပေးသွင်းရာတွင် ကုမ္ပဏီမှ ရည်ရွယ်သတ်မှတ်ထားသည့် (ယေဘုယအားဖြင့် သို့မဟုတ် တိတိကျကျ) နေရပ်လိပ်စာကိုသာ ပေးပို့ သို့မဟုတ် ပေးသွင်းရမည်။

၅၅(၅)(က) စာရွက်စာတမ်း သို့မဟုတ် သတင်းအချက်အလက်အား မြန်မာနိုင်ငံအတွင်းရှိ လိပ်စာသို့ စာတိုက်မှပေးပို့ပြီး(စာရွက်ဖြင့်ဖြစ်စေ သို့မဟုတ် အီလက်ထရောနစ်ပုံစံဖြင့်ဖြစ်စေ) ပေးပို့သူ သည်၎င်းအား သင့်လျော်စွာ ဖော်ပြကြောင်း၊ ကြိုတင်ပေးချေပြီးကြောင်းနှင့် ပေးပို့ပြီးကြောင်း ပြသနိုင်လျှင် ပေးပို့ပြီး ကိုးဆယ့်ခြောက် (၉၆)နာရီအတွင်း ရည်စူးထားသူမှ လက်ခံရရှိပြီး ဖြစ်သည်ဟု ယူဆသည်။

(ခ) စာရွက်စာတမ်း သို့မဟုတ် သတင်းအချက်အလက်အား အီလက်ထရောနစ် ပုံစံများဖြင့် ပေးပို့ သို့မဟုတ် ပေးသွင်းရာတွင် ကုမ္ပဏီသည် ၎င်းအား သင့်လျော်စွာ ဖော်ပြကြောင်း၊ ကြိုတင်ပေးချေပြီးကြောင်းနှင့် ပေးပို့ပြီးကြောင်း ပြသနိုင်လျှင် ပေးပို့ပြီး နှစ်ဆယ့်လေး (၂၄) နာရီအတွင်း ရည်စူးထားသူမှ လက်ခံရရှိပြီးဖြစ်သည်ဟု ယူဆသည်။

